# အခြေခံ အစ္စလာမ့်သမိုင်း

တမန်တော်မုဟမ္မဒ် ﷺ ခေတ်မှ ယနေ့ခေတ်အထိ

**မာတိကာ**

# အမှာစာ

بسم الله الرحمن الرحيم

الحمد لله رب العالمين والعاقبة للمتقين والصلاة والسلام على سيد المرسلين وعلى آله وأصحابه أجمعين

အာလင်မ်သင်တန်း၏ အခြေခံသင်ရိုးစာအုပ်များကို မြန်မာဘာသာဖြင့် သင်ကြားပေးရေးအစီအစဉ်အရ **အုစူလွလ်ဖိက်ဟ်** ပညာရပ်ဆိုင်ရာ အခြေခံသင်ရိုးစာအုပ်ကို ဦးစွာရေးသားပြုစုခဲ့ပါသည်။ အဆိုပါအစီအစဉ်၏ ဒုတိယမြောက်ခြေလှမ်းအနေဖြင့် **အစ္စလာမ့်သမိုင်း** အခြေခံသင်ရိုးစာအုပ်ကို ဆက်လက်ရေးသား ပြုစုတင်ဆက်လိုက်ပါသည်။

ဒေါက်တာအိဗ်ရာဟိမ်းရှရီကီရေးသားပြုစုထားသည့် နာမည်ကျော်အရဗီသမိုင်းစာအုပ်ဖြစ်သည့် التاريخ الإسلامي ကို အခြေခံပြီး ဤစာအုပ်ကိုရေးသားပြုခဲ့ပါသည်။ လွယ်ကူရိုးရှင်းသည့် ရေးသားဟန်ကို အသုံးပြုထားပြီး ယှဉ်တွဲမှတ်သားနိုင်ရန် ဟိဂျ်ရီခုနှစ်များနှင့်အတူ ခရစ်နှစ်များကိုပါ ဖော်ပြပေးထားပါသည်။

အစ္စလာမ့်သမိုင်းတစ်ခုလုံးကို ခြုံငုံနားလည်မိသွားစေရန် ရည်ရွယ်ရေးသားခြင်းဖြစ်သောကြောင့် ကျောင်းသားများသာမက လေ့လာလိုသူတိုင်းအတွက် အကျိုးတစ်စုံတစ်ရာဖြစ်စေလိမ့်မည်ဟု မျှော်လင့်မိပါသည်။

စတင်ရေးသားချိန်မှစပြီး ပြီးဆုံးသည်အထိ လိုအပ်သည်များကို အကြံပြုရင်း စိစစ်တည်းဖြတ်ပေးခဲ့သော ဆရာဖြစ်သူ မွဖ်သီအာစွင်မ်း (နဒ်ဝီ) ကို အလ္လာဟ်အရှင်မြတ် ကောင်းသောအစားချီးမြှင့်ပေးပါရန် ဆုမွန်ဒိုအာပြုရင်း ကျေးဇူးအထူးတင်ရှိပါကြောင်း လှိုက်လှဲစွာပြော ကြားလိုပါသည်။

အပြုသဘောဆောင်သည့် ဝေဖန်အကြံပြုချက်များကိုလည်း လက်ကမ်းကြိုဆိုရင်း။

အင်မ်ရားန် (အလ်ကောင်စရီ)

بسم الله الرحمن الرحيم

# အလ်ဟားဂျ် မော်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်

# (နဒ်ဝီ ၊ အဗုလ်ဟစနီ၊ မဇ္ဇာဟေ့ရီ) ၏ ရင်တွင်းစကား

الحمد لله على جميع النعم ، والصلاة والسلام على سيدنا محمد ماجرى المداد بالقلم .

(2023)ခုကို မျိုးဆက်သစ်အာလင်မ် ကလောင်ရှင်များ၏ ကလောင်မြူးထူးသည့်စာပေနှစ်ဟု မှတ်တမ်းတင်ဂုဏ်ပြုလိုပါသည်။ အသက်(၂၀)ကျော်သာရှိသေးသည့် မျိုးဆက်သစ်ကလောင်ရှင်လေး များသည် အာလင်မ်သင်ရိုးပါအခြေခံစာအုပ်များကို မြန်မာဘာသာဖြင့် သဘာရင့်ဝါရင့်ဆရာကြီးများပီပီ ရေးသားပြုစုနေကြသည်မှာ ချီးကျူး ထိုက်ပေသည်။

علم التجويد ، علم الصرف، علم النحو ، أصول التفسير، أصول الحديث ، أصول الفقه ، الأديان والفرق والمذاهب المعاصرة ، علم المنطق، علم البلاغة ، الغزو الفكري، السيرة النبوية

စသည့် ဘာသာရပ်များကို မြန်မာ့မြေမှအခြေခံကျောင်းသားလေးများ အတွက် မြန်မာဘာသာဖြင့် ရိုးရှင်းလွယ်ကူစွာ၊ ခေတ်မီနည်းစနစ်များကို ပိုင်ပိုင်နိုင်နိုင်အသုံးချကာ ရေးသားပေးနိုင်ခြင်းမှာ အားရဝမ်းသာစရာပင် ဖြစ်ပါသည်။ ဤမျိုးဆက်၏ယခုကဲ့သို့ ကြိုးပမ်းအားထုတ်မှုများကြောင့် နောင်အနာဂတ် အစ္စလာမ့်စာပေလောကကြီးအတွက် အတိုင်းအတာ တစ်ခုအထိ စိတ်အေးရပါသည်ဟုလည်း မျှော်လင့်ချက်များစွာဖြင့် မှတ်ချက်ပြုအပ်ပါသည်။

ယခုလည်း (၂၀၂၃)ခုနှစ်၏ مسك الختام (ကတိုးရနံ့ကြိုင်သင်း သောနိဂုံး)အနေဖြင့် ချစ်မိတ်ဆွေ မော်လာနာအိမ်ရာန် (အလ်ကောင် ဆရီ)က အခြေခံအစ္စလာမ့်သမိုင်းကျမ်းတစ်ကျမ်းကို အခြေခံတန်း

ကျောင်းသား၊ကျောင်းသူများအတွက် မြန်မာဘာသာဖြင့် ပြုစုတင်ဆက်လိုက်ပါသည်။ وللّٰه الحمد أولا وآخرا

## التاريخ သမိုင်းဆိုသည်မှာ

သမိုင်း = သံပိုင်း - သံမွိုင်း- သမိုင်း (မိုင်း=ကြီးသော) = သိမှတ်ဖွယ်ရာကြီးတစ်ရပ်(သို့) အစုအစည်းအားလုံး၏ သိမှတ်ဖွယ်ရာ ဟူ၍ဖြစ်သည်။

မြန်မာစာပေ ဝေါဟာရအသုံးအနှုန်း၌ "နိုင်ငံ၊လူမျိုး၊ အဆောက်အအုံ၊ လူပုဂ္ဂိုလ် စသည်တို့၏ရှေးကာလဖြစ်စဉ်။ ယင်းတို့ကို စနစ်တကျလေ့လာသောပညာရပ်"ဟူ၍ ဖွင့်ဆိုထားပါသည်။

သမိုင်း ဘာသာရပ်သည် လူ့ဘောင်လောကရှိ လူသားတို့၏အကြောင်းကို လေ့လာသော ဘာသာရပ်ဖြစ်ကြောင်း၊ လူသားတို့၏စိတ်ပိုင်းဆိုင်ရာနှင့် ရုပ်ပိုင်းဆိုင်ရာ ပြောင်းလဲတိုးတက်လာပုံ၊ လူ၏စွမ်းဆောင်ကြိုးပမ်းချက်များ၊ ဆင့်ကဲဆင့်ကဲတိုးတက် အောင်မြင်မှုများပါဝင်သည့် လူ့အကြောင်းများကို လေ့လာသော ဘာသာရပ်ဖြစ်ကြောင်းပါမောက္ခဒေါက်တာမောင်မောင်က ဆိုသည်။

## ကျမ်းမြတ်ကုရ်အာန်နှင့် သမိုင်း

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကျမ်းမြတ်ကုရ်အာန်စူရဟ် ယူစွတ်ဖ်(၁၂) ၊ အာယသ် (၁၁၁)တွင် لَقَدۡ كَانَ فِي قَصَصِهِمۡ عِبۡرَةٞ لِّأُوْلِي ٱلۡأَلۡبَٰبِۗ
"မုချ ၎င်းတို့၏အကြောင်းအတ္ထုပ္ပတ္တိများတွင် ဆင်ခြင်သိမြင် နားလည်သူတို့အဖို့ ကြီးမားသော သမိုင်းသင်ခန်းစာရှိပါသည်" ဟု မိန့်ကြားထားသည်။

ရှေးလွန်လေပြီးသူတို့၏ ကောင်းသော သမိုင်းဝင်လုပ်ရပ်များမှ သင်ခန်းစာများ၊ ရလဒ်ကောင်းများကို စံထားပြီး မိမိတို့ဘဝကို

အကောင်းဆုံး ထုဆစ်နိုင်ရန်နှင့်၊ ၎င်းတို့အနက် နဖူးစာဆိုးသူတို့၏ ရလဒ်ဆိုးများကို ရှုံရှားမုန်းတီးကာ ရှောင်ရှားလိုစိတ်ဖြစ်ပေါ်စေခြင်း သည် သမိုင်းပညာရပ်လေ့လာခြင်း၏ အဓိကရည်ရွယ်ချက်ဖြစ်သည်။

ဟဇရတ်ရှားဟ်ဝလီယွလ္လာဟ် ဒဲ့ဟ်လဝီ ﵀ သခင်ကြီးက " ကျမ်းမြတ်ကုရ်အာန်ရဲ့ ငါးပုံတစ်ပုံက အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ်ရဲ့ သမိုင်းကြောင်းတွေကို တင်ပြထားပါသည်"ဟု ရေးသားခဲ့ပါသည်။

## ဟဒီးဆ်တော်များနှင့် သမိုင်း

ကိုယ်တော်မြတ် ﷺ မိန့်ကြားခဲ့သော ဟဒီးဆ်တော်များအား ပညာရှင်ကြီးများက အမျိုးအစား(၈)မျိုးခွဲကြသည်။ ယင်းတို့အနက် တစ်မျိုးမှာ السير ، بدء الخلق "စီရည်အတ္တုပ္ပတ္တိနှင့် သမိုင်းကဏ္ဍ" ဖြစ်သည်။

## သမိုင်းတလျှောက် သမိုင်းပြုစုခြင်း

ကျွန်ုပ်တို့ လှမ်းထောက်၍ မမှီနိုင်သော သမိုင်းအကြောင်း အရာများကို ရှေးယခင်က သမိုင်းသုတေသီများ ရေးသားပြုစုခဲ့သည်တို့ကို မှီငြမ်းကိုးကားပြီး သမိုင်းကို ပြုစုခဲ့ကြ သည်။

ထိုသို့ပြုစုရာတွင် မှီငြမ်းချက်အဖြစ် ကျမ်းမြတ်ကုရ်အာန်၊ ဟဒီးဆ်တော်များနှင့် ဆွဟာဗာတို့၏ဆင့်ပြန်မိန့်ကြားချက်များ၊ ခေတ်အဆက်ဆက် စီရည်ပညာရှင်များ၊ အစ္စလာမ့်သမိုင်းပညာရှင်တို့၏ လေ့လာသုံးသပ်၊ ဆုံးဖြတ်ချက်များကို စံပြုကြသည်။

ဤသို့ ပြုစုရာတွင် မှန်ကန်တိကျခြင်း၊ ကိုးကားချက်ခိုင်လုံခြင်း၊ သစ္စာသမာဓိရှိခြင်းနှင့် အတ္တအစွဲကင်းခြင်းတို့ကို အခြေခံကြသည်။

## အစ္စလာမ့် ကမ္ဘာ့သမိုင်းနှင့် အစ္စလာမ့် မြန်မာ့သမိုင်း

ကျွန်ုပ်တို့အတွက် သမိုင်းဟုဆိုလိုက်လျှင် အစ္စလာမ့်ကမ္ဘာ့သမိုင်းနှင့် အစ္စလာမ့်မြန်မာ့သမိုင်းဟူ၍ နှစ်မျိုးနှစ်စားရှိသည်။ မြန်မာမွတ်စ်လင်မ်တစ်ဦးအတွက် သမိုင်းနှစ်မျိုးလုံးကို ကျွမ်းကျင်ရပါမည်။ ပိုင်နိုင်ရပါမည်။ အထူးသဖြင့် အာလင်မ်တစ်ယောက်တိုင်းသည် ဤသမိုင်းကဏ္ဍနှစ်မျိုးလုံးကို ကြေညက်မှ ရပါမည်။ သမိုင်းသိမှ လူမျိုးသိမည်ဟု ဆရာကြီး ဦးဘိုထွေးက သင်ကြားပေးဖူးသည်။

ကျေးဇူးရှင် ဆရာကြီး ရှိုင်ခွလ်ဟဒီးဆ် ဟဇရသ် မော်လာနာဂျမာလွဒ္ဒီးန်က “**ပန်းသတင်းလေညှင်းဆောင်၊ လူသတင်းလူချင်းဆောင်**”၊ “**ရာသီမသိပန်းနှင့်ညီ ၊ သမိုင်းမသိ ကျမ်းနှင့်ညီ**”ဟု ရေးသားခဲ့ပါသည်။

## မြန်မာနိုင်ငံ အစ္စလာမ့် စာပေသမိုင်းကို လေ့လာခြင်း

ပါမောက္ခဒေါက်တာအောင်ဇော်၏ သုတေသနပြုချက်အရ “မြန်မာအစ္စလာမ့်သမိုင်း ပြုစုခြင်းအစဥ်အလာသည် ကုန်းဘောင်ခေတ် ဗဒုံမင်းတရား လက်ထက် သာသနာပိုင် အာဗိဒ်ရှားဟ်ဟိုစိုင်နီ သခင်ကြီးတို့မှ စတင်သည်။ သခင်ကြီး ရေးသားပြုစုသော “စေရာဂွျန်နိုဗူဝပ်ကျမ်း”သည် အာဒမ်နဗီသခင်မှစ၍ တမန်တော်မုဟမ္မဒ် အထိ တမန်တော်များ၏ မဟာဝင်သမိုင်းကျမ်းဖြစ်ပါသည်။

ထို့နောက် ပုဂံဝန်မင်း၏မြေး အမူကြင်၏ အံဗျေယာနဗီ ၁၂၄၀ဂဂကျော်တို့၏ အကြောင်း၊ထို့နောက် ဦးထွန်းကြွယ်ရေးသားပြုစုအပ်သော အစ္စလာမ့်ပေါင်းချုပ်ကျမ်း စသည်တို့ဖြစ်သည်။”

ထို့နောက် (၂၀၁၄)ခုနှစ်၊ စက်တင်ဘာ(၁၅)တွင် မြန်မာနိုင်ငံ အလယ်ပိုင်းနှင့် အထက်ပိုင်းရှိအာလင်မ်ကျောင်းတော်များ၏ ကျောင်းအုပ်ဆရာကြီးများ၊ ကျောင်းဆရာသခင်များ စုစုပေါင်း(၁၃)ပါးနှင့် စတင်ဖွဲ့စည်းခဲ့သော အစ္စလာမ့်သမိုင်းကျမ်းဖြစ်မြောက်ရေးအဖွဲ့

၏လမ်းညွှန်ကွပ်ကဲမှုဖြင့် ကျမ်းရေးသားပြုစုရေးအဖွဲ့တို့ ရေးသားပြုစုခဲ့သော "**အစ္စလာမ့် သမိုင်းကျမ်း**"သည်လည်း အခိုင်အမာဆုံး အစုံလင်ဆုံးကျမ်းဖြစ်ပါသည်။ ထိုပညာရှင်ကြီးများက ယင်းကျမ်းကို ခေါင်းစဉ်ဆယ်ခုလျာထားပြီး ရေးသားပြုစုခဲ့ကြပါသည်။ အလ်ဟာမ်ဒုလိလ္လာဟ် ဤကျမ်းများသည်လည်း အစ္စလာမ့်သမိုင်းပြုစုခြင်းနှင့် ယင်းသို့ပြုစုရာတွင် ခိုင်လုံတိကျသော မှီးငြမ်းကျမ်းများအဖြစ် ဦးဆောင်နေမည်ဖြစ်ပါသည်။

## တက်သစ်စရင်သွေးငယ်များလွယ်ကူစွာ သမိုင်းလေ့လာနိုင်ရေးအတွက်အခွင့်အလမ်းတစ်ခု

မြန်မာ့မြေရှိ ရင်သွေးရတနာများအတွက် ခေတ်စနစ်နှင့်အညီ၊ အစ္စလာမ့်သမိုင်းရသ၊သုတဝမ်းစာ ဖြည့်စွက်ပေးမည့် စာအုပ်တစ်အုပ်ကို စာဖတ်ပရိသတ်ထံ တင်ဆက်ရင်း အရှင်မြတ်ကို အတိုင်းမသိ ကျေးဇူးတင်မိပါသည်။ ထိုစာအုပ်ကို မျိုးဆက်သစ် ကလောင်ရှင် မော်လာနာမုဟမ္မဒ်အင်မ်ရားန် (အလ်ကောင်ဆရီ)က ဒေါက်တာ အိဗ်ရာဟီးမ်ရှရီကီ ရေးသားပြုစုအပ်သော التاريخ الإسلامي ကျမ်းကို အဓိကမှီငြမ်းကာ ပြုစုထားပါသည်။ မော်လာနာအိမ်ရားန်သည် ကျောင်းသားဘဝကတည်းက စာပေအရေးအသားကို ဝါသနာထုံသူတစ်ဦးဖြစ်သည်။ ထိုစဉ်အခါကတည်းက အရေးနယ်ပယ်တွင် အရည်အချင်းတစ်ခုတည်ဆောက်ထားပြီး ဖြစ်သည်။ ကျောင်းပြီးသည့်နောက်တွင်လည်း စာပေလေ့လာခြင်းများကို တိုးမြှင့်လုပ်ဆောင်ကာ ကြိုးစားနေပါသည်။ မိမိပြောဆိုလိုသည့် အကြောင်းအရာများကို သမ္မာရင့်ဝါရင့်ဆရာများကဲ့သို့ တင်ပြနိုင်ခြင်းမှာ မော်လာနာဆပ်၏ ထူးခြားချက်ဟု မှတ်ချက်ပြုလိုပါသည်။

ယနေ့အထိလည်း မော်လာနာသည် ကျမ်းကြီးကျမ်းငယ်အသွယ်သွယ်ကို ပြုစုနေဆဲ ဖြစ်ပါသည်။ ထုတ်ဝေနေဆဲဖြစ်ပါသည်။

ဆရာသည် ဤကျမ်းငယ်ကို မန္တလေးမြို့ တောင်ဆင်ကျုံး ဗလီဝင်းအတွင်း ဖွင့်လှစ်ထားသည့် ABUBAKR EDUCATION CENTER တွင် ခေတ်ပညာတတ်များအတွက် (၅)နှစ်တာ အာလင်မ်သင်ရိုးတွင် ပြဋ္ဌာန်းအဖြစ် စတင်ရေးသားခဲ့သည်။ ဤမှတဆင့် အခြားသော ကျောင်းများတွင်လည်း သင်ကြားရာ အကျိုးဖြစ်ထွန်းကြောင်းတွေ့ရှိရသည်။

**ဤကျမ်းငယ်၏ ထူးခြားချက်များမှာ ....**

❍ ရိုးရှင်းလွယ်ကူလှသော ရေးနည်းရေးဟန်ကို အသုံးပြုထားခြင်း။

❍ ကိုယ်တော်မြတ် ﷺ လက်ထက်တော်မှ ယနေ့ခေတ်ထိ ကမ္ဘာ့အစ္စလာမ့်သမိုင်းကဏ္ဍများအား စုံလင်စွာ တင်ပြထားခြင်း။ ထိုသို့ တင်ပြရာတွင် သမိုင်းကွင်းဆက် ထိမိစွာ သမိုင်းတလျှောက်ရှိခဲ့သည့် အင်ပါယာငယ်များအကြောင်းကိုပါ တင်ပြထားခြင်း။

❍ ခိုင်လုံတိကျသော ကျမ်းများကိုသာ ကိုးကားတင်ပြခြင်း။

❍ အကျိုးခံစားရ မှတ်သားရလွယ်ကူပြီး ဖတ်ရှုသူအား မငြီးငွေ့စေပဲ တဖြည်းဖြည်း ဆွဲခေါ်သွားခြင်း။

❍ စာအုပ်ပါ နိုင်ငံများ၊အချက်အလက်များကိုလည်း မြန်မာဆန်ဆန် ဖလှယ်ပြီး တင်ပြထားခြင်း။

❍ အကြောင်းအရာတစ်ခုတိုင်းကို သူ၏ဖြစ်ပျက်စဉ်နေ့စွဲများ၊ ခုနှစ်များနှင့်တကွ အတိအကျ ဖော်ပြထားခြင်း။

❍ ခေတ်တစ်ခေတ်၊ အင်ပါယာတစ်ခုအကြောင်း ပြီးဆုံးလေတိုင်း ထိုအင်ပါယာ၊ထိုခေတ်၏အားနည်းချက်၊ အားသာချက်၊ ထူးခြားချက်များကို နောက်ဆုံးပိုင်းတွင် အကျဉ်းရုံးတင်ပြထားခြင်း။

ကျန်ရှိနေသော အလှတရားများကို စာဖတ်ပရိသတ်အနေဖြင့် ကိုယ်တိုင်ကိုယ်ကျ ခံစားသိမြင်နိုင်ပါသည်။

ကျွန်ုပ်သည် ဤကျမ်းကို စ၊လယ်၊ဆုံး တစ်ကြိမ်ထက်မနည်း ကြည့်ရှုခဲ့ပါသည်။ လိုအပ်သည်များကိုလည်း အကြိမ်ကြိမ်ဝိုင်းဝန်း ပြင်ဆင်ခဲ့ပါသည်။

**အကြံပြုချက်**

ဤကဲ့သို့ အဖက်ဖက်မှ ဝိုင်းဝန်းကြိုးပမ်းထားသော်လည်း လိုအပ်ချက်များ၊ အမှားများမှာလည်း ဆက်လက်ရှိနေဦးမည် ဖြစ်ပါသည်။ စာရှုသူများဘက်မှ တစ်စုံတစ်ရာ အကြံပြုလိုလျှင်သော် လည်းကောင်း၊ အမှားပြင်ဆင်ချက် တစ်စုံတစ်ရာကိုသော်လည်း ကောင်း ချီးမြှင့်လိုပါက ကျမ်းရှင်၏နံပတ်(09-785651939)ကို တိုက်ရိုက်ဆက်သွယ်ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အာလင်မ်ကျောင်းတော်များ၏ ကျောင်းအုပ်ဆရာကြီးများ၊ ပညာရေးတာဝန်ခံများအနေဖြင့် ဤစာအုပ်ကို လေ့လာကြည့်ပြီး မိမိတို့ သင်ရိုးတွင် ပြဌာန်းစာအုပ်ဖြင့် ထည့်သွင်းမည်ဆိုလျှင် များစွာအကျိုး ရှိလိမ့်မည်ဟု မျှော်လင့်ပါသည်။

**နိဂုံးချုပ်ဒိုအာ**

မြင့်မြတ်တော်မူသောအရှင်မြတ် ဤကျမ်းငယ်ကို အထူးလက်ခံ သဘောတူတော်မူပါစေ။ ဤကျမ်းပြုစုသူများ၊ ဤကျမ်းဖြစ်မြောက် ရေးတွင် အဖက်ဖက်မှ အုပ်တစ်ချပ်သဲတစ်ပွင့် ပါဝင်ခဲ့ကြသူများ၊ ဤကျမ်းကို သင်ပေးသင်ယူလုပ်သူများကိုလည်း နှစ်ဘဝနှစ်ဌာနတွင် လိုတရအဆင့်ကို ပိုင်ဆိုင်ခွင့်ချီးမြှင့်ပေးသနားတော်မူပါစေ။

ဤကျမ်းငယ်ဖြင့် အမွှာသ်ထုတစ်ရပ်လုံးကိုလည်း ကေယာမသ်တိုင် အကျိုးခံစားခွင့်များ ချီးမြှင့်ပေးသနားတော်မူပါစေဟု ဆုမွန်ကောင်းများ အရှင်မြတ်ထံ တောင်းဆုပန်လိုက်ရပါသည်။

မုဟာမွဒ် အာစွင်းမ် (နဒ်ဝီ၊အဇ္ဖလ်ဟာစနီ၊ မဒ္ဒာဟော့ရီ)

ဟစ်ဂျ်ရီ (၁၄၄၅)ခု၊ ဂျူမာဒတ်ဆ္ဆာနီယာ (၁၇)ရက်

31/12/2023(Sunday)

# အပိုင်း (၁)

# သမိုင်းပညာရပ်ဆိုင်ရာ အခြေခံသိမှတ်ဖွယ်ရာများ

(၁) အဓိပ္ပါယ်ဖွင့်ဆိုချက်

ခေတ်ကာလအလိုက် လူ့အဖွဲ့အစည်းများ၏ အခြေအနေအရပ်ရပ်ကို တင်ပြသော ပညာရပ်ကို သမိုင်းပညာရပ်ဟုခေါ်သည်။

(၂) လေ့လာရမည့်နယ်ပယ်

ခေတ်ကာလအသီးသီးရှိ လူသားတို့၏အခြေအနေအရပ်ရပ်ကို လေ့လာရမည်။

(၃) အကျိုးကျေးဇူး

အတိတ်ကာလရှိ အဖြစ်အပျက်များကို ပြန်လည်ဆင်ခြင်သုံးသပ်ပြီး သင်ခန်းစာယူနိုင်မည်။

(၄) ရည်ရွယ်ချက်

အတိတ်ကာလရှိ အဖြစ်အပျက်များမှ သင်ခန်းစာယူပြီး ပစ္စုပ္ပန်နှင့်အနာဂတ်ကာလကို အကောင်းဆုံးပုံဖော်နိုင်ရန် ရည်ရွယ်ချက်ထားရှိရမည်။

(၅) အမိန့်

နဗီတမန်တော်များ ﷺ တမန်တော်မြတ် ﷺ နှင့် ဆွဟာဗာ ﷺ များ၏ ခိုင်မာသော သမိုင်းတို့ကို လေ့လာသင်ယူရန် အရေးကြီးသည်။ အကောင်းဆုံးသင်ခန်းစာယူနိုင်ရန်အတွက် အစ္စလာမ့်သမိုင်းဖြစ်ရပ်များကိုလည်း လေ့လာရမည်ဖြစ်သည်။

# အပိုင်း (၂)

# တမန်တော်မြတ်မိုဟမ္မဒ် ﷺ ခေတ်

## အခန်း ၁။ တမန်တော်မြတ် ﷺ မပွင့်ပေါ်မီ အရဗ်လူမျိုးတို့၏ အခြေအနေအရပ်ရပ်

အာရှတိုက်အရှေ့အလယ်ပိုင်းရှိ အာရေဗျကျွန်းဆွယ်သည် အရဗ်လူမျိုးတို့၏ ဘူမိနက်သန်ဇာတိမြေဖြစ်သည်။ အရဗ်တို့သည် တမန်တော်အိဗ်ရာဟီးမ် عليه السلام ၏ ဖိတ်ခေါ်လမ်းညွှန်မှုကြောင့် တစ်ပါးတည်းသောဖန်ဆင်းရှင်ဝါဒကို သက်ဝင်ယုံကြည်ခဲ့ကြသည်။ ထို့နောက် အမ်ရ်ဗင်န်လိုဟိုက်၏ဦးဆောင်ကြိုးပမ်းမှုဖြင့် ရုပ်ထုကိုးကွယ်သည့် အယူဝါဒ အရဗ်တို့အတွင်း စတင်ဝင်ရောက်လာခဲ့ပြီး ရာစုနှစ်ပေါင်းများစွာ ထိုအယူဝါဒကို လက်ခံယုံကြည်ထားခဲ့ကြသည်။ အရဗ်တို့သည် ကအ်ဗာကျောင်းတော်ရှိရာ ဟရာမ်နယ်နိမိတ်ကို အလေးအမြတ်ထားပြီး ဟဂျ်ကျင့်စဉ်ကို ကျင့်ဆောင်နေကြသော်လည်း တမန်တော်အိဗ်ရာဟီးမ် عليه السلام ညွှန်ကြားခဲ့သည့် ပုံစံအတိုင်းမဟုတ်တော့ဘဲ အမိုက်ခေတ်၏ ထုံးတမ်းစဉ်လာများကို ထည့်သွင်းလုပ်ဆောင်နေခဲ့ပြီဖြစ်သည်။

ကျေးလက်နေအရဗ်တို့မှာ မျိုးနွယ်စုများအလိုက် ရေကြည်ရာမြက်နုရာဒေသများဆီ လှည့်လည်ရွှေ့ပြောင်းနေထိုင်လေ့ရှိကြပြီး မွေးမြူရေးကို အဓိကထားလုပ်ကိုင်ကြသည်။ မြို့နေအရဗ်များမှာ ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းပြုကြသည်။ မျိုးနွယ်စုတိုင်းတွင် မျိုးနွယ်စုခေါင်းဆောင်ရှိသော်လည်း ထိုခေါင်းဆောင်

သည့် မျိုးနွယ်စုနှင့်သက်ဆိုင်သော အရေးကိစ္စများကိုသာ ကိုင်တွယ်ဖြေရှင်းပေးရပြီး သက်ဦးဆံပိုင်ဘုရင်ကဲ့သို့ အကြွင်းမဲ့အာဏာရှင်မဟုတ်ပေ။

အရက်သေစာသောက်စားခြင်း၊ ကာမလိုက်စားခြင်း၊ လုယက်တိုက်ခိုက်ခြင်း၊ အနိုင်ကျင့်ခြင်း၊ လောင်းကစားလုပ်ခြင်းစသည့် ဒုစရိုက်မှုမျိုးစုံ အရဗ်လူ့အဖွဲ့အစည်းတွင် ပြန့်နှံ့တွင်ကျယ်ခဲ့သည်။ ပူပြင်းလွန်းသောကန္တာရအတွင်း လှုပ်ရှားရုန်းကန်နေရသူများ ဖြစ်သည့်အတွက် ရဲရင့်ပြီး ခံနိုင်ရည်ရှိကြသူများဖြစ်သည်။ အရဗ်တို့သည် လွတ်လပ်မှုကို ခုံမင်ကြပြီး ရက်ရောခြင်း၊ ဂုဏ်သိက္ခာကိုတန်ဖိုးထားခြင်းနှင့် မှန်ကန်စွာပြောဆိုခြင်းစသည့် အရည်အသွေးကောင်းများကို ပိုင်ဆိုင်ထားကြသည်။ အရဗ်လူ့အဖွဲ့အစည်းအတွင်း မျိုးနွယ်စွဲစိတ် ခိုင်ခိုင်မာမာအမြစ်တွယ်ခဲ့သည်။ ပြဿနာတစုံတရာဖြစ်ပါက မှန်သည် မှားသည်ကို မကြည့်ဘဲ မိမိမျိုးနွယ်ဘက်ကသာ ရပ်တည်ကြသည်။

အရဗ်တို့သည် ကဗျာလင်္ကာများကို လွန်စွာနှစ်ခြိုက်ကြပြီး ကဗျာဆရာများသည် အရဗ်လူ့အဖွဲ့အစည်းတွင် အဆင့်အတန်းမြင့်ပြီး ဂုဏ်ရှိသူများဖြစ်သည်။ ကဗျာပြိုင်ပွဲများ နှစ်စဉ်ကျင်းပလေ့ရှိကြသည်။ အရဗ်တို့သည် ကဗျာရှည်ကြီးများကို တစ်ကြိမ်နားထောင်ရုံနှင့် အလွတ်မှတ်မိနိုင်သည်အထိ မှတ်သားဉာဏ်ကောင်းကြသူများဖြစ်ကြသည်။

## အခန်း ၂။ တမန်တော်မြတ် ﷺ ပွင့်ပေါ်သောခေတ်

## (ဟိဂျ်ရီခုနှစ်မတိုင်မီ ၅၃ နှစ် - ဟိဂျ်ရီ ၁၁ ) (ခရစ်နှစ် ၅၇၁ - ၆၃၂)

### နဗီမဖြစ်မီအချိန်ကာလ

တမန်တော်မြတ်မုဟမ္မဒ် ﷺ အား ရဗီအွလ်အောင်ဝလ် (၁၂) ရက်နေ့တွင် ဖခင်အဗ္ဗဒွလ္လာဟ်နှင့် မိခင်အာမေနာတို့မှ မက္ကာဟ်မြို့၌ ဖွားမြင်ခဲ့သည်။ ခရစ်နှစ်အရ (၅၇၁) ခုနှစ်ဖြစ်သည်။ တမန်တော်မြတ် ﷺ ၏မျိုးနွယ်ဖြစ်သော ဗနူဟာရှင်မ်မျိုးနွယ်သည် မက္ကာဟ်မြို့ရှိ ဂုဏ်အသရေရှိမျိုးနွယ်ဖြစ်ပြီး ဟာဂျီများကို ဇမ်ဇမ်ရေတိုက်ကျွေးရန်နှင့် ဧည့်ဝတ်ပြုရန် တာဝန်ယူထားကြသူများဖြစ်သည်။ မိခင်ဖြစ်သူသည် တမန်တော်မြတ် ﷺ ကို ကိုယ်ဝန်ဆောင်ထားစဉ် ဖခင်ဖြစ်သူ ကွယ်လွန်ခဲ့သည်။

မွေးဖွားပြီးနောက် မိခင်ဖြစ်သူက (၇) ရက်ခန့် နို့ချိုတိုက်ကျွေးပြီး နို့ထိန်းသည် ဟလီမာစအ်ဒီယာထံ အပ်နှံကာ နို့ချိုတိုက်ကျွေးစေခဲ့သည်။ တမန်တော်မြတ် ﷺ သည် နို့ထိန်းသည်၏မျိုးနွယ်စုနေထိုင်ရာ ကျေးလက်ဒေသတွင် (၄) နှစ်ခန့် နေထိုင်ခဲ့သည်။ ထို့နောက် မိခင်ဖြစ်သူရှိရာ မက္ကာမြို့သို့ ပြန်လာခဲ့သည်။ အသက် (၆) နှစ်အရွယ်တွင် မိခင်ဖြစ်သူ ကွယ်လွန်သွားခဲ့ရာ အဘိုးဖြစ်သူ အဗ္ဗဒွလ်မွတ္တလိဗ်က တာဝန်ယူ ထိန်းသိမ်းစောင့်ရှောက်ခဲ့သည်။ အသက် (၈) နှစ်အရွယ်တွင် အဘိုးဖြစ်သူ ကွယ်လွန်သွားပြန်ရာ ဦးလေးဖြစ်သူ အဗူသွာလိဗ်က ဆက်လက်တာဝန်ယူ ထိန်းသိမ်းစောင့်ရှောက်ခဲ့သည်။ အသက် (၁၂) ကျော်လာသောအခါ ဦးလေးဖြစ်သူ၏ ဆိတ်များကို ထိန်းကျောင်းပေးခဲ့သည်။

အသက် (၁၂) နှစ်အရွယ်တွင် ဦးလေးဖြစ်သူနှင့်အတူ ဆီးရီးယား နိုင်ငံသို့ ကုန်သွယ်ရေးခရီးထွက်ခဲ့သည်။ ဤခရီးစဉ်တွင် ခရစ်ယာန် ဘုန်းတော်ကြီးဘိုဟိုင်ရာဟ်နှင့် တွေ့ဆုံခဲ့ပြီး ထိုဘုန်းကြီးက ဤလူငယ် လေးမုဟမ္မဒ်တွင် နောက်ဆုံးပွင့်ပေါ်မည့်နဗီ၏ လက္ခဏာများရှိနေ ကြောင်း ဦးလေးဖြစ်သူကို ပြောပြခဲ့သည်။ တမန်တော်မြတ် ﷺ သည် လူငယ်ဘဝမှာပင် မှန်ကန်စွာပြောဆိုခြင်း၊ ကိုယ်ကျင့်တရားကောင်းမွန် ခြင်း၊ သစ္စာသမာဓိ ရှိခြင်းစသည့် ကိုယ်ရည်ကိုယ်သွေးများနှင့် ထင်ရှားခဲ့ သည်။

ထို့ကြောင့် မက္ကာဟ်မြို့ရှိ သူကြွယ်အမျိုးသမီးတစ်ဦးဖြစ်သည့် ခဒီဂျာ رضي الله عنها က တမန်တော်မြတ် ﷺ အား မိမိ၏ကုန်ပစ္စည်းများကို ကူးသန်းရောင်းဝယ်ပေးရန် ကိုယ်စားလှယ်အဖြစ်ခန့်အပ်ခဲ့သည်။ ကုန် သွယ်ရေးခရီးစဉ်မှ အမြတ်အစွန်းများစွာရရှိခဲ့၍ ဒုတိယအကြိမ် ထပ်မံ စေလွှတ်ခဲ့ရာ ဒုတိယအကြိမ်တွင်လည်း ထပ်မံ၍ အမြတ်အစွန်းများစွာ ရရှိခဲ့သည်။ ဤအချိန်တွင် တမန်တော်မြတ် ﷺ ၏သက်တော်သည် (၂၅) နှစ် ရှိပြီဖြစ်သည်။ တမန်တော်မြတ် ﷺ ၏ ကိုယ်ကျင့်စာရိတ္တနှင့် အရည်အချင်းများကို နှစ်သက်သဘောကျပြီး ခဒီဂျာ رضي الله عنها သည် တမန်တော်မြတ် ﷺ နှင့် လက်ထပ်ထိမ်းမြားခဲ့သည်။ လက်ထပ်ထိမ်း မြားချိန်တွင် ခဒီဂျာ رضي الله عنها ၏ သက်တော်မှာ (၄၀) နှစ်ဖြစ်သည်။ လက်ထပ်ပြီးချိန်မှစ၍ တမန်တော်မြတ် ﷺ နှင့်အတူ ဆိုးတူ ကောင်းဘက် ဘဝလက်တွဲဖော်အဖြစ် တာဝန်ကျေပြွန်စွာ နေထိုင်ခဲ့ သည်။

တမန်တော်မြတ် ﷺ သည် နဗီမဖြစ်မီအချိန်ကတည်းက ဒုစ ရိုက်မှုများကို ရှောင်ရှားခဲ့သူဖြစ်သည်။ ဉာဏ်အမြော်အမြင်ကြီးမားခြင်း၊ မှန်ကန်စွာပြောဆိုခြင်း၊ သစ္စာသမာဓိရှိခြင်း၊ သမာသမတ်ကျခြင်း၊

ကိုယ်ကျင့်စာရိတ္တကောင်းမွန်ခြင်းများကြောင့် သစ္စာရှင်ဟူသောဂုဏ်ပုဒ်နှင့် ကျော်ကြားပြီး လူအများ၏ယုံကြည်မှုကို ရရှိခဲ့သည်။

## နဗီဖြစ်ပြီးနောက်အချိန်ကာလ

### မက္ကာဟ်မြို့တွင်နေထိုင်စဉ် အစ္စလာမ့်ရေးရာလှုပ်ရှားမှုများ

ခရစ်နှစ် (၆၁၀) ခုနှစ် တမန်တော်မြတ် ﷺ သက်တော် (၄၀) ပြည့်ပြီးနောက် မက္ကာဟ်မြို့အနီးရှိ ဟေရာလိုဏ်ဂူတွင် တစ်ကိုယ်တည်းနေထိုင်ရင်း အလ္လာဟ်အရှင်မြတ် အားခဝပ်ကိုးကွယ်နေစဉ် ကောင်းကင်တမန်ဂျိဗ်ရအီးလ် ﷺ ရောက်ရှိလာပြီး အလ္လာဟ်အရှင့်ထံတော်ပါးမှ ဝဟီဗြာဒိတ်တော်ကို စတင်ပို့ချခဲ့သည်။ ထိုအချိန်မှစ၍ အစ္စလာမ်သာသနာဘက်သို့ ဖိတ်ခေါ်ရေးလှုပ်ရှားမှုကို စတင်ခဲ့သည်။ စတင်ချိန်ပထမ (၃) နှစ်အတွင်း လျှို့ဝှက်စွာဖိတ်ခေါ်သည့်ပုံစံနှင့် လုပ်ဆောင်ခဲ့သည်။ မိသားစုဝင်များ၊ ဆွေမျိုးသားချင်းများနှင့် ရင်းနှီးသောမိတ်ဆွေများကို အစ္စလာမ်သာသနာဘက်သို့ စတင်ဖိတ်ခေါ်ခဲ့သည်။

ခဒီဂျာ ﷺ ၊ အဗူဗက်ရ် ﷺ ၊ အွစ်မာန် ﷺ ၊ အလီ ﷺ ၊ သွလ်ဟာ ﷺ၊ ဇိုဗိုင်းရ် ﷺ ၊ အဗ္ဗဒွရ်ရဟ်မာန် ﷺ နှင့် အခြားသောမိတ်ဆွေအချို့ အစ္စလာမ်သာသနာကို လက်ခံခဲ့ကြသည်။ ပထမ (၃) နှစ်တွင် လျှို့ဝှက်စွာဖိတ်ခေါ်ခဲ့ပြီးနောက် အတိအလင်းပုံစံနှင့် ဖိတ်ခေါ်မှုပြုသောအခါ မက္ကာဟ်မြို့နေ ကိုရိုင်းရှ်မျိုးနွယ်ဝင်တို့က ပိတ်ပင်တားဆီးမှုများ ပြုလာကြသည်။ တမန်တော်မြတ် ﷺ နှင့် မွတ်စ်လင်မ်တို့ကို နည်းလမ်းမျိုးစုံနှင့် ဒုက္ခပေးကြသည်။ သို့သော် အစ္စလာမ်သာသနာလက်ခံသူအရေအတွက် ပိုမိုများလာသောအခါ ကိုရိုင်းရှ်တို့က ဘကြီး

တော်အဗူသွာလိဗ်မှတဆင့် တမန်တော်မြတ် ﷺ ကို မက်လုံးပေး မြူဆွယ်ပြီး အစ္စလာမ့်ဖိတ်ခေါ်ရေးလုပ်ရှားမှုကို ရပ်တန့်စေရန် အနုနည်းဖြင့် ကြိုးစားကြသည်။ သို့သော် တမန်တော်မြတ် ﷺ က ထိုမက်လုံးပေးမှုကို ငြင်းဆန်ပြီး မိမိ၏ကြိုးပမ်းဆောင်ရွက်မှုကို ဆက်လက်လုပ်ဆောင်နေခဲ့သည်။

(၅) နှစ်ခန့်ကြာသောအခါ ကိုရိုင်းရှ်တို့၏ ညှင်းပန်းနှိပ်စက်မှုများ အတိုင်းအထက် အလွန်ဖြစ်လာသည့်အတွက် တမန်တော်မြတ် ﷺ က မွတ်စ်လင်မ်အချို့အား ဟဗ်ရှာနိုင်ငံသို့ပြောင်းရွှေ့နေထိုင်ကြရန် ညွှန်ကြားခဲ့သည်။ ထို့ကြောင့် မွတ်စ်လင်မ်အချို့သည် အုပ်စုနှစ်စုခွဲပြီး ဟဗ်ရှာနိုင်ငံသို့ ရွှေ့ပြောင်းနေထိုင်ကြရာ ကိုရိုင်းရှ်တို့က ဟဗ်ရှာနိုင်ငံအထိလိုက်လာပြီး ဟဗ်ရှာဘုရင်ထံ သွေးထိုးလှုံ့ဆော်မှုများပြုကြသော်လည်း မအောင်မြင်ခဲ့ပေ။

(၇) နှစ်မြောက်ရောက်သောအခါ ကိုရိုင်းရှ်တို့က အမျိုးမျိုးဟန့်တားပိတ်ဆို့နေလင့်ကစား အစ္စလာမ်သာသနာလက်ခံသူဦးရေ ပိုမိုများပြားလာခဲ့သည်။ ထို့ကြောင့် ကိုရိုင်းရှ်တို့သည် မွတ်စ်လင်မ်တို့အား စီးပွားရေး၊ လူမှုရေး အဆက်အသွယ်ဖြတ်တောက်မှု ပြုလုပ်ခဲ့သည်။ မွတ်စ်လင်မ်တို့သည် ဤအဆက်အသွယ်ဖြတ်တောက်မှုဒဏ်ကို (၃) နှစ်ခန့် အလူးအလဲခံခဲ့ရသည်။

(၁၀) နှစ်မြောက်ရောက်သောအခါ တမန်တော်မြတ် ﷺ ကို အပြည့်အဝ ကာကွယ်ပေးထားသည့် ဘကြီးတော်အဗူသွာလိဗ်နှင့် ဇနီးဖြစ်သူခဒီဂျာ ﷺ တို့ ကွယ်လွန်ခဲ့သည်။ ထိုအခါ ကိုရိုင်းရှ်တို့က ပိုမိုဒုက္ခပေးလာခဲ့သည်။ ထို့ကြောင့် တမန်တော်မြတ် ﷺ သည် မက္ကာဟ်မြို့အနီးရှိ သွာအိဖ်မြို့သို့ သွားရောက်ပြီး အစ္စလာမ့်ဖိတ်ခေါ်ရေးလှုပ်ရှားမှုပြုခဲ့သည်။ မြို့သူမြို့သားတို့က လက်မခံငြင်းဆန်ရုံသာမက လှောင်ပြောင်သရော်ခဲ့ကြသည်။ ဟဂျ်ကာလများတွင် တမန်တော်မြတ် ﷺ

သည် အနယ်နယ်အရပ်ရပ်မှ မက္ကာဟ်မြို့သို့ ရောက်ရှိလာသော မျိုးနွယ်စုများထံသွားရောက်ပြီး အစ္စလာမ့်မိတ်ဆက်စကားများ ဟောကြားလေ့ရှိသည်။

နဗီအဖြစ်စေလွှတ်ခံရပြီး (၁၂) နှစ်မြောက်ကာလဖြစ်သည့် ခရစ်နှစ် (၆၂၁) ခုနှစ် ဟဂျ်ကာလတွင် မက္ကာဟ်မြို့သို့ ရောက်ရှိလာသော မဒီနာမြို့သားအချို့သည် တမန်တော်မြတ် ﷺ ၏အစ္စလာမ့်သာသနာဘက်သို့ ဖိတ်ခေါ်မှုကိုလက်ခံပြီး တမန်တော်မြတ် ﷺ ထံ သစ္စာခံခဲ့သည်။ နောက်နှစ်ဟဂျ်ကာလတွင်လည်း မဒီနာမြို့သားတချို့ ထပ်မံရောက်ရှိလာပြီး အစ္စလာမ်သာသနာကို လက်ခံခဲ့သည်။ ထို့နောက် တမန်တော်မြတ် ﷺ နှင့် မွတ်စ်လင်မ်တို့အား မဒီနာမြို့သို့ ပြောင်းရွှေ့နေထိုင်ပါက အကာအကွယ်ပေးမည့်အကြောင်း မဒီနာမြို့သားတို့က တမန်တော်မြတ် ﷺ ကို ကတိပြုခဲ့ကြသည်။

## မဒီနာမြို့သို့ပြောင်းရွှေ့ပြီးနောက် အစ္စလာမ့်ရေးရာလှုပ်ရှားမှုများ

မဒီနာမြို့သားများက ကာကွယ်စောင့်ရှောက်ရန် ကတိပြုခြင်းကြောင့် တမန်တော်မြတ် ﷺ သည် မွတ်စ်လင်မ်တို့အား မဒီနာမြို့သို့ ပြောင်းရွှေ့နေထိုင်ရန် ညွှန်ကြားခဲ့သည်။ ကိုရိုင်းရှ်တို့က တမန်တော်မြတ် ﷺ ကို လုပ်ကြံသတ်ဖြတ်ရန် ကြံစည်ခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ တမန်တော်မြတ် ﷺ သည် ဟိဂျ်ရီ (၁) ခုနှစ်၊ ခရစ်နှစ် (၆၂၂) ခုနှစ် သက်တော် (၅၃) နှစ်တွင် ကိုရိုင်းရှ်တို့၏ဟန့်တားပိတ်ဆို့မှုများကြားမှ မဒီနာမြို့သို့ ပြောင်းရွှေ့ခဲ့သည်။

တမန်တော်မြတ် ﷺ ပြောင်းရွှေ့လာပြီးနောက် မဒီနာမြို့သားအများစုသည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့ကြသည်။ ပထမဆုံးမွတ်စ်လင်မ်လူ့အဖွဲ့အစည်းတစ်ခု ခိုင်မာစွာပေါ်ပေါက်လာခဲ့ပြီဖြစ်သည်။ အမိုက်ခေတ်၏မျိုးနွယ်စွဲစိတ် ပပျောက်ပြီး စည်းလုံး

ညီညွတ်မှုဖြစ်တည်လာစေရန် တမန်တော်မြတ် ﷺ သည် မွတ်စ်လင်မ် များကို ညီနောင်ဖွဲ့ပေးသည်။ အကြံပေးကော်မတီတစ်ရပ်ဖွဲ့ပြီး ရှေ့ဆက်လုပ်ဆောင်မည့် လုပ်ငန်းစဉ်များကို ချမှတ်ခဲ့သည်။ မဒီနာမြို့ နေမွတ်စ်လင်မ်မဟုတ် သူများနှင့် ငြိမ်းချမ်းရေးစာချုပ်များချုပ်ဆိုခဲ့ သည်။ အုပ်ချုပ်ရေးနှင့် တရားစီရင်ရေးဆိုင်ရာ အစ္စလာမ့်ဥပဒေများ စတင်အသက်ဝင်ပြီဖြစ်သည်။

**ဗဒရ်စစ်ပွဲ**

ဟိဂျ်ရီ (၂) ခုနှစ်၊ ခရစ်နှစ် (၆၂၄) ခုနှစ်တွင် ဗဒ်ရ်စစ်ပွဲ ဖြစ်ပွားခဲ့သည်။ ကိုရိုင်းရှ်တို့သည် မွတ်စ်လင်မ်တို့အား မွေးရပ်မြေမှ စွန့်ခွာစေခဲ့ပြီးနောက် မက္ကာဟ်မြို့ရှိ မွတ်စ်လင်မ်တို့၏ပိုင်ဆိုင်မှုများကို သိမ်းယူလိုက်ကြသည်။ ထို့ကြောင့် မွတ်စ်လင်မ်တို့သည် မဒီနာမြို့သို့ ရောက်ရှိပြီးနောက် ကိုရိုင်းရှ်တို့၏ ကုန်သည်အုပ်စုကို ပြန်လည် လက်စားချေတိုက်ခိုက်ရန် ကြိုးစားခဲ့သည်။ ထိုအခါ ကုန်သည်အုပ်စု သည် မက္ကာဟ်မြို့သို့ စစ်ကူလှမ်းတောင်းသည်။ စစ်ကူလာသော ကိုရိုင်းရှ်တို့နှင့် မွတ်စ်လင်မ်တို့အကြား စစ်ပွဲဖြစ်ပွားခဲ့တယ်။ ဤစစ်ပွဲတွင် မွတ်စ်လင်မ်တို့အောင်နိုင်ခဲ့ပြီး သုံ့ပန်းပစ္စည်းများစွာ ရရှိခဲ့ သည်။ ဤစစ်ပွဲတွင် မွတ်စ်လင်မ်တို့၏ စစ်သည်အင်အားမှာ (၃၁၃) ဦး ဖြစ်ပြီး ကိုရိုင်းရှ်တို့၏ စစ်သည်အင်အားမှာ (၁၀၀၀) ဦးဖြစ်သည်။ မွတ်စ်လင်မ်တို့ဘက်မှ (၁၄) ဦး ကျဆုံးရှဟီးဒ်ဖြစ်ပြီး ကိုရိုင်းရှ်တို့ဘက်မှ အယောက် (၇၀) ကျဆုံးကာ အယောက် (၇၀) သုံ့ပန်းအဖြစ် ဖမ်းဆီးခံခဲ့ရသည်။

## အိုဟူဒ်စစ်ပွဲ

ဟိဂျ်ရီ (၃) ခုနှစ်၊ ခရစ်နှစ် (၆၂၅) ခုနှစ်တွင် အိုဟူဒ်စစ်ပွဲ ဖြစ်ပွားခဲ့သည်။ ဗဒရ်စစ်ပွဲတွင် ရှုံးနိမ့်ခဲ့သောကြောင့် မွတ်စ်လင်မ်တို့ကို ပြန်လည်လက်စားချေတိုက်ခိုက်ရန် ကိုရိုင်းရှ်တို့သည် စစ်အင်အား (၃၀၀၀) ခန့်ဖြင့် မဒီနာမြို့သို့ ချီတက်လာခဲ့သည်။ တမန်တော်မြတ် ﷺ သည် မွတ်စ်လင်မ် (၇၀၀) ဦးခန့်ဖြင့် ကိုရိုင်းရှ်တို့ကို ခုခံရင်ဆိုင်ရန် ပြင်ဆင်ခဲ့သည်။ စစ်ပွဲအစတွင် မွတ်စ်လင်မ်တို့အသာစီးရခဲ့သည်။ သို့သော် အုဟူဒ်တောင်ပေါ်တွင် အစောင့်ချထားသော မွတ်စ်လင်မ် လေးသည်တော်တချို့က တမန်တော်မြတ် ﷺ ၏ စစ်ဗျူဟာဆိုင်ရာ အမိန့်ကိုချိုးဖောက်ခဲ့သည်။ တမန်တော်မြတ် ﷺ က တိုက်ပွဲအခြေအနေ မည်သို့ပင်ဖြစ်နေပါစေ တောင်အောက်သို့ဆင်းမလာရန် မှာတမ်း ထားသည်။ သို့သော် လေးသည်တော်အချို့က တိုက်ပွဲအောင်နိုင်ပြီ အထင်နှင့် တောင်ခြေသို့ ဆင်းလာခဲ့သည်။ ထိုအခါ ကိုရိုင်းရှ်တို့က ဟာကွက်ကိုအသုံးချပြီး တောင်နောက်မှ ပြန်လည်ထိုးစစ်ဆင် တိုက်ခိုက်သောကြောင့် အသာစီးရခဲ့သည်။ ဤစစ်ပွဲတွင် မွတ်စ်လင်မ် စစ်သည် (၇၀) ကျဆုံးရှဟီးဒ်ဖြစ်ပြီး ကိုရိုင်းရှ် (၂၄) ဦးကျဆုံးခဲ့သည်။

## အဟ်ဇားဗ် (သို့) ခန်ဒက်စစ်ပွဲ

ဟိဂျ်ရီ (၄) ခုနှစ်၊ ခရစ်နှစ် (၆၂၆) ခုနှစ်တွင် အဟ်ဇားဗ် (သို့) ခန်ဒက်စစ်ပွဲ ဖြစ်ပွားခဲ့သည်။ မဒီနာမြို့နေ ယဟူဒီမျိုးနွယ်စုတစ်စု ဖြစ်သည့် ဗနူနဇီးရ်မျိုးနွယ်သည် တမန်တော်မြတ် ﷺ ကို လုပ်ကြံ သတ်ဖြတ်ရန် ကြံစည်ခဲ့သည်။ ထို့ကြောင့် တမန်တော်မြတ် ﷺ သည် ထိုမျိုးနွယ်စုအား မဒီနာမြို့မှ နယ်နှင်ဒဏ်ပေးခဲ့သည်။ ထိုမျိုးနွယ်စု သည် အခြားယဟူဒီမျိုးနွယ်စုများနေထိုင်ရာ ခိုင်ဗရ်ဒေသသို့ ပြောင်းရွှေ့

သွားကြသည်။ မဒီနာမြို့ကို တိုက်ခိုက်ချေမှုန်းရန် မက္ကာဟ်မြို့ရှိ ကိုရိုင်းရှ်ခေါင်းဆောင်များကို ထိုယဟူဒီများက သွားရောက်တိုက်တွန်းခဲ့ သည်။ ထို့ကြောင့် ကိုရိုင်းရှ်မျိုးနွယ်နှင့်အခြားမျိုးနွယ်စုများ ပူးပေါင်း ထားသည့် အင်အားတစ်သောင်းခန့်ရှိသော မဟာမိတ်တပ်ပေါင်းစုကြီး သည် မဒီနာမြို့သို့ ချီတက်လာခဲ့သည်။ တမန်တော်မြတ် ﷺ နှင့် မွတ်စ်လင်မ်တို့က မဒီနာမြို့ပြင်တွင် ကျုံးတူးပြီး ခုခံခဲ့သည်။ ကိုရိုင်းရှ်တို့က မဒီနာမြို့ကို နှစ်လတိုင် ဝိုင်းရံပိတ်ဆို့ထားခဲ့သည်။ မဒီနာမြို့နေ ယဟူဒီမျိုးနွယ်စုဖြစ်သည့် ဗနူကိုရိုင်ဇွာတို့က မွတ်စ်လင်မ် တို့ကို သစ္စာဖောက်ပြီး ကိုရိုင်းရှ်တို့နှင့် ပူးပေါင်းခဲ့သည်။ ဝန်းရံပိတ်ဆို့ ရင်း အချိန်ကြာလာသည့်အခါ မဟာမိတ်တပ်များ စိတ်ဝမ်းကွဲလာခဲ့ သည်။ ထို့အပြင် လေပြင်းမုန်တိုင်း တိုက်ခတ်လာခဲ့သောကြောင့် မဟာ မိတ်တပ်ပေါင်းစုကြီး ဖရိုဖရဲဖြစ်ကာ တပ်ပျက်ပြီး ဆုတ်ခွာသွားခဲ့သည်။

## ဗနူကိုရိုင်ဇွာစစ်ပွဲ

မဒီနာမြို့နေယဟူဒီတို့သည် မဒီနာမြို့ကိုကာကွယ်ရန် ကတိ စာချုပ် ချုပ်ဆိုထားသူများဖြစ်သည်။ သို့သော် ကတိစာချုပ်ကို ဖောက် ဖျက်ပြီး ကိုရိုင်းရှ်တို့ကို အကူအညီပေးခဲ့ကြသည်။ ထို့ကြောင့် ကိုရိုင်းရှ် တို့၏ မဟာမိတ်တပ်ပေါင်းစုကြီး ဆုတ်ခွာသွားပြီးနောက် တမန်တော် မြတ် ﷺ သည် စာချုပ်ဖောက်ဖျက်ခဲ့သော ယဟူဒီမျိုးနွယ်စုဖြစ်သည့် ဗနူကိုရိုင်ဇွာတို့ထံ စစ်ချီခဲ့သည်။ ထို့နောက် ယဟူဒီအမျိုးသားများကို သုတ်သင်ရှင်းလင်းကာ မွတ်စ်လင်မ်လူ့အဖွဲ့အစည်းကို အမြစ်ဖြတ်ရန် ကြိုးစားခဲ့သော ကတိမတည်သည့်ယဟူဒီတို့၏ အန္တရာယ်ကို ရှင်းလင်း ခဲ့သည်။

## ဟိဂျ်ရီ (၄) ခုနှစ်အတွင်း စစ်ပွဲများ

ထို့နောက် ဟိဂျ်ရီ (၄) ခုနှစ် ခရစ်နှစ် (၆၂၆) ခုနှစ်အတွင်းမှာပင် (၃) ကြိမ်တိုင်တိုင် စစ်ချီတက်မှုပြုခဲ့သည်။ သို့သော်တိုက်ပွဲမဖြစ်ခဲ့ပေ။ ထိုသုံးကြိမ်မှာ ဇာသွရ်ရိုကာ့အ်စစ်ပွဲ၊ ဒုတိယဘဒရ်စစ်ပွဲ၊ ဒူးမသွလ်ဂျန်ဒလ်စစ်ပွဲတို့ဖြစ်သည်။ တိုက်ပွဲမဖြစ်ခဲ့သော်လည်း မွတ်စ်လင်မ်တို့၏ အရှိန်အဝါနှင့် အင်အားကို ပြသနိုင်ခဲ့သည်။ ထို့နောက် တမန်တော်မြတ် ﷺ သည် အစ္စလာမ့်ရေးရာဖိတ်ခေါ်ရေးလုပ်ငန်းများကို အားသွန်ခွန်စိုက်ပြုလုပ်ခဲ့ပြီး အစ္စလာမ့်နိုင်ငံသစ်အတွက် လိုအပ်သောစီမံဆောင်ရွက်ဖွယ်ရာများကို ဆောင်ရွက်ခဲ့သည်။

## ဟိုဒိုင်ဗီယာငြိမ်းချမ်းရေးစာချုပ်

ဟိဂျ်ရီ (၆) ခုနှစ် ခရစ်နှစ် (၆၂၈) ခုနှစ်တွင် တမန်တော်မြတ် ﷺ သည် ဆွဟာဗဟ (၁၄၀၀) ခန့်နှင့်အတူ အွမ်ရာဟ်ပြုရန် မက္ကာဟ်မြို့သို့ သွားခဲ့သည်။ သို့သော် ကိုရိုင်းရှ်တို့က မက္ကာဟ်မြို့သို့ အဝင်မခံဘဲ ပိတ်ဆို့တားဆီးခဲ့သည်။ ထို့နောက် အပြန်အလှန် ဆွေးနွေးမှုများပြုကြပြီး စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုခဲ့ကြသည်။ စာချုပ်သက်တမ်းမှာ (၁၀) နှစ်ဖြစ်ပြီး ယခုနှစ်တွင် မွတ်စ်လင်မ်တို့အနေနှင့် မက္ကာဟ်မြို့သို့ မဝင်ရောက်ရန်၊ လာမည့်နှစ်မှသာ မွတ်စ်လင်မ်တို့ အွမ္မရာဟ်ပြုခွင့်ရှိပြီး မက္ကာဟ်မြို့တွင် (၃) ရက်ခန့် နေထိုင်ရန်၊ မွတ်စ်လင်မ်တစ်ဦးတစ်ယောက်သည် အစ္စလာမ်သာသနာကို စွန့်လွှတ်ပြီး ကိုရိုင်းရှ်တို့ထံ လာရောက်ပါက ခွင့်ပြုရန်၊ သို့သော် ကိုရိုင်းရှ်တစ်ဦးသည် အစ္စလာမ်သာသနာကိုလက်ခံပြီး မဒီနာမြို့သို့ရောက်ရှိလာပါက ကိုရိုင်းရှ်တို့ထံ ပြန်လည်ပို့ဆောင်ပေးရန် စသည့်စည်းကမ်းချက်များပါဝင်သည်။ ဤစာချုပ်ကို ဟိုဒိုင်ဗီယာငြိမ်းချမ်းရေး စာချုပ်ဟုခေါ်သည်။ ဟိုဒိုင်ဗီယာ

ငြိမ်းချမ်းရေးစာချုပ်ကြောင့် အစ္စလာမ်ရေးရာ ဖိတ်ခေါ်ရေးလှုပ်ရှားမှု များကို ပိုမိုကျယ်ပြန့်စွာ ဆောင်ရွက်လာနိုင်ခဲ့သည်။ အစ္စလာမ်သာသနာ လက်ခံသူဦးရေ ပိုမိုများပြားလာခဲ့သည်။ တမန်တော်မြတ် ﷺ သည် နိုင်ငံရပ်ခြားရှိ ဘုရင်များထံ သံတမန်များစေလွှတ်၍ အစ္စလာမ် သာသနာဘက်သို့ ဖိတ်ခေါ်ခဲ့သည်။

## ခိုင်ဗရ်စစ်ပွဲ

ယဟူဒီတို့သည် ခိုင်ဗရ်ဒေသကို အခြေပြု၍ အစ္စလာမ့်ဆန့်ကျင် ရေးလှုပ်ရှားမှုများကို နည်းလမ်းမျိုးစုံသုံး၍ ပြုလုပ်နေခဲ့ကြသည်။ ထိုယဟူဒီများသည် ကိုရိုင်းရှ်တို့၏ မဟာမိတ်တပ်ပေါင်းစုကြီးအား မဒီနာမြို့သို့ ချီတက်တိုက်ခိုက်ရန် တိုက်တွန်းလှုံ့ဆော်ခဲ့သူများဖြစ် သည်။ ထို့ကြောင့်တမန်တော်မြတ် ﷺ သည် စတင်တည်ထောင်စ မွတ်စ်လင်မ်လူ့အဖွဲ့အစည်းအတွက် ကြီးမားသောအန္တရာယ်တစ်ခုဖြစ် နေသည့် ယဟူဒီတို့ကို နှိမ်နှင်းရန် ဟစ်ဂျ်ရီ (၇) ခုနှစ်၊ ခရစ်နှစ် (၆၂၉) ခုနှစ်တွင် မွတ်စ်လင်မ်စစ်တပ်နှင့်အတူ ခိုင်ဗရ်သို့ ချီတက်ခဲ့သည်။ ခိုင်ဗရ်စစ်ပွဲသည် နှစ်လကြာခဲ့ပြီး မွတ်စ်လင်မ်တို့အနိုင်ရခဲ့သည်။

## အွမ်ရာသွလ်ကဇ္ဇာ

ထို့နောက် တမန်တော်မြတ် ﷺ သည် ဟုဒိုင်ဗီယာ ငြိမ်းချမ်း ရေးစာချုပ်ပါ ရပိုင်ခွင့်အရ အွမ်ရာဟ်ပြုရန် မွတ်စ်လင်မ်တို့နှင့်အတူ မက္ကာဟ်မြို့သို့ထွက်ခွာလာခဲ့သည်။ စာချုပ်ပါအချက်အတိုင်း မက္ကာဟ် မြို့တွင် သုံးရက်နေထိုင်ပြီး အွမ်ရာဟ်ပြုခဲ့သည်။ ဤအွမ်ရာဟ်ကို အွမ်ရသွလ်ကဇ္ဇာဟု ခေါ်သည်။

## မို့အ်သာစစ်ပွဲ

ထို့နောက် ဟိဂျ်ရီ (၈) ခုနှစ်၊ ခရစ်နှစ် (၆၂၉) ခုနှစ်တွင် တမန်တော်မြတ် ﷺ သည် ဘာဇင်တိုင်းအင်ပါယာလက်အောက်ခံ ဘွဆ်ွရာဒေသအုပ်ချုပ်ရေးမှူးထံသို့ အစ္စလာမ်သာသနာဘက်သို့ ဖိတ်ခေါ်သော သဝဏ်လွှာတစ်စောင်ပေးပို့ခဲ့သည်။ ထိုအုပ်ချုပ်ရေးမှူးက ဖိတ်ခေါ်မှုကို ငြင်းဆန်ရုံမက သံတမန်များကို သတ်ဖြတ်ခဲ့သည်။ ထို့ကြောင့် တမန်တော်မြတ် ﷺ က အင်အားသုံးထောင်ပါသော မွတ်စ်လင်မ်စစ်တပ်ကို စေလွှတ်ခဲ့သည်။ ရောမတို့ကလည်း အဆပေါင်းများစွာသာလွန်သောစစ်အင်အားနှင့် မွတ်စ်လင်မ်စစ်တပ်ကို ရင်ဆိုင်တိုက်ခိုက်ခဲ့သည်။ မို့အ်သာအမည်ရနေရာတွင် နှစ်ဖက်စစ်တပ်များ ထိပ်တိုက်တွေ့ပြီး အပြင်းအထန်တိုက်ပွဲဖြစ်ပွားခဲ့သည်။ ထို့ကြောင့် ဤစစ်ပွဲကို မို့အ်သာစစ်ပွဲဟု ခေါ်သည်။ အင်အားသောင်းနှင့်ချီသော ရောမစစ်တပ်ကို အင်အားထောင်ဂဏန်းမျှရှိသော မွတ်စ်လင်မ်စစ်တပ်က ရဲစွမ်းသတ္တိအပြည့်နှင့် တိုက်ခိုက်ခဲ့သည်။ နောက်ဆုံးတွင် မွတ်စ်လင်မ်စစ်တပ်ကို ခါလိဒ်ဗင်န်ဝလီးဒ် ﵁ က အောင်မြင်စွာ ဆုတ်ခွာစေနိုင်ခဲ့ပြီး အင်အားအဆမတန်သာလွန်သော ရောမစစ်တပ်၏ ချေမှုန်းမှုဒဏ်မှ ကာကွယ်ပေးနိုင်ခဲ့သည်။ ဤစစ်ပွဲ၏ ရလဒ်အနေဖြင့် အင်အားကြီးအင်ပါယာတစ်ခုကို ထောင်ဂဏန်းမျှရှိသော အရေအတွက်နှင့် ရင်ဆိုင်တိုက်ခိုက်ခဲ့သည့် စတင်တည်ထောင်စ အစ္စလာမ့်နိုင်ငံငယ်၏ ဂုဏ်သတင်းသည် အာရေဗျကျွန်းဆွယ်ပြင်ပအထိ ကျော်ကြားသွားခဲ့သည်။

## မက္ကာဟ်မြို့ကိုအောင်နိုင်ခြင်း

ဟိဂျ်ရီ (၈) ခုနှစ်၊ ခရစ်နှစ် (၆၃၀) ခုနှစ်တွင် ကိုရိုင်းရှ်တို့နှင့် မဟာမိတ်ဖွဲ့ထားသောမျိုးနွယ်တစ်စုက တမန်တော်မြတ် ﷺ နှင့် မဟာမိတ်ဖွဲ့ထားသော မျိုးနွယ်စုတစ်စုကို တိုက်ခိုက်ခဲ့သည်။ ဤတိုက်ခိုက်မှုကို ကိုရိုင်းရှ်တို့က လက်နက်ထောက်ပံ့ပေးခဲ့ပြီး ဟိုဒိုင်ဗီယာငြိမ်းချမ်းရေးစာချုပ်ကို ချိုးဖောက်ခဲ့သည်။ ထို့ကြောင့် တမန်တော်မြတ် ﷺ က မွတ်စ်လင်မ်အင်အားတစ်သောင်းပါသော စစ်တပ်နှင့် မက္ကာဟ်မြို့သို့ ချီတက်လာခဲ့သည်။ ခုခံမှုအနည်းငယ်မှလွဲ၍ တိုက်ပွဲဖြစ်ပွားခဲ့ခြင်းမရှိဘဲ မွတ်စ်လင်မ်စစ်တပ်သည် မက္ကာဟ်မြို့ကို အောင်နိုင်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ကအ်ဗာကျောင်းတော်ရှိ ရုပ်ထုများကို ရှင်းလင်းခဲ့ပြီး မိမိကို ဒုက္ခအမျိုးမျိုးပေးခဲ့သည့် မက္ကာဟ်မြို့သူမြို့သားတို့ကို အရေးမယူဘဲ လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သည်။

## ဟိုနိုင်းန်စစ်ပွဲ

မွတ်စ်လင်မ်တို့ မက္ကာဟ်မြို့ကို အောင်နိုင်ကြောင်းသတင်းကို ဟဝါဇင်န်မျိုးနွယ်စုက ကြားသိသည့်အခါ မွတ်စ်လင်မ်တို့ကို မက္ကာဟ်မြို့မှ ပြန်လည်တိုက်ထုတ်ရန်အတွက် စစ်ပြင်ခဲ့သည်။ ဟဝါဇင်န်မျိုးနွယ်သည် ကိုရိုင်းရှ်မျိုးနွယ်နီးပါး အင်အားကြီးမားသော မျိုးနွယ်ကြီးဖြစ်သည်။ သွာအိဖ်မြို့နေ စကီးဖ်မျိုးနွယ်များလည်း ဟဝါဇင်န်မျိုးနွယ်နှင့် ပူးပေါင်းခဲ့သည်။ တမန်တော်မြတ် ﷺ သည် ထိုသတင်းကို ကြားသိပြီးနောက် အင်အားတစ်သောင်းနှစ်ထောင်ပါသော မွတ်စ်လင်မ်စစ်တပ်နှင့် ထိုမျိုးနွယ်စုများထံ ချီတက်လာခဲ့သည်။ ဟိုနိုင်းန်လျှိုမြောင်တွင် နှစ်ဖက်စစ်တပ်များ ထိပ်တိုက်တွေ့ပြီး စစ်ပွဲဖြစ်ပွားခဲ့သည်။ စစ်ပွဲအစတွင် မွတ်စ်လင်မ်တို့ အရေးနိမ့်ခဲ့သော်လည်း

တမန်တော်မြတ် ﷺ ၏ ရဲ့ရင့်စွာဦးဆောင်တိုက်ပွဲဝင်မှုကြောင့် အနိုင်ရခဲ့သည်။ ဤစစ်ပွဲကို ဟိုနိုင်းန်စစ်ပွဲ ဟုခေါ်သည်။

## သွာအိဖ်စစ်ပွဲ

ဟိုနိုင်းန်စစ်ပွဲတွင် ရှုံးနိမ့်သွားသော ဟဝါဇင်န်နှင့် စကီးဖ် မျိုးနွယ်များသည် သွာအိဖ်မြို့သို့ ဆုတ်ခွာသွားခဲ့သည်။ ထို့ကြောင့် မွတ်စ်လင်မ်စစ်တပ်သည် သွာအိဖ်မြို့သို့ ဆက်လက်ချီတက်ခဲ့သည်။ ဟဝါဇင်န်နှင့် စကီးဖ်မျိုးနွယ်တို့က မြို့ခံတပ်တံခါးများကို ပိတ်၍ ခုခံသောကြောင့် မွတ်စ်လင်မ်တို့က မြို့ကိုဝန်းရံပိတ်ဆို့ထားခဲ့သည်။ ရက်ပေါင်းလေးဆယ်ခန့် ဝန်းရံပိတ်ဆို့ပြီး ပြန်လည်ဆုတ်ခွာခဲ့သည်။ လအနည်းငယ်ကြာပြီးနောက် သွာအိဖ်မြို့သားများ အစ္စလာမ်သာသနာကို လက်ခံခဲ့ကြပြီး တမန်တော်မြတ် ﷺ ထံသို့ ကိုယ်စားလှယ်အဖွဲ့တစ်ဖွဲ့စေလွှတ်ခဲ့သည်။

## သဗူးက်စစ်ပွဲ

ဟိဂ်ျရီ (၉) ခုနှစ်၊ ခရစ်နှစ် (၆၃၀) ခုနှစ်တွင် တဖြည်းဖြည်း အင်အားကြီးလာသော မွတ်စ်လင်မ်တို့ကို ချေမှုန်းရန်အတွက် ရောမတို့သည်အင်အားလေးသောင်းပါသော စစ်တပ်ကိုပြင်ဆင်ကာ ချီတက်လာခဲ့သည်။ ထို့သတင်းကြောင့် တမန်တော်မြတ် ﷺ သည် မွတ်စ်လင်မ်တို့ကို စစ်ချီရန်အတွက် ညွှန်ကြားခဲ့သည်။ သီးနှံဆွတ်ခူးချိန်ဖြစ်၍ လူအများစုမှာ ကြပ်တည်းနေကြသည့်အပြင် ရာသီဥတုလည်း အလွန်ပူပြင်းနေသည်။ ချီတက်ရမည့်နေရာမှာလည်း အလွန်ဝေးလံသော နယ်စပ်ဒေသဖြစ်သည်။ ထိုသို့ အခက်အခဲအကြပ်အတည်း အမျိုးမျိုး

ကြားမှ မွတ်စ်လင်မ်တို့သည် စစ်ပြင်ကာ ချီတက်ခဲ့ကြသည်။ မွတ်စ်လင်မ်တို့၏ စစ်သည်အင်အားမှာ သုံးသောင်းဖြစ်သည်။ မဒီနာမြို့နှင့် ကီလိုမီတာ (၇၀၀) ခန့်အကွာရှိ သဗူးက်သို့ မွတ်စ်လင်မ်စစ်တပ်ရောက်ရှိသောအခါ ရောမစစ်တပ်သည်မွတ်စ်လင်မ်စစ်တပ်နှင့် ရင်ဆိုင်တိုက်ခိုက်ခြင်းမရှိဘဲ ပြန်လည်ဆုတ်ခွာသွားခဲ့သည်။ တိုက်ပွဲဖြစ်ပွားခြင်းမရှိသော်လည်း သဗူးက်စစ်ပွဲ၏ရလဒ်အနေနှင့် ထိုနယ်ရှိ ရောမသစ္စာခံဒေသများသည် တမန်တော်မြတ် ﷺ ထံ သစ္စာခံခဲ့ကြသည်။ ထို့ကြောင့် တမန်တော်မြတ် ﷺ သည် အာရေဗျကျွန်းဆွယ်တစ်ခုလုံးကို စုစည်းအုပ်ချုပ်နိုင်ခဲ့ပြီဖြစ်သည်။

## ကိုယ်စားလှယ်အဖွဲ့များလာရောက်သောနှစ်

ထို့နောက် ဟိဂျ်ရီ (၉) ခုနှစ်၊ ခရစ်နှစ် (၆၃၀) ခုနှစ်တွင် အာရေဗျကျွန်းဆွယ်အနှံ့မှ မျိုးနွယ်စုကိုယ်စားလှယ်အဖွဲ့များ မဒီနာမြို့သို့ရောက်ရှိလာခဲ့ကြပြီး တမန်တော်မြတ် ﷺ ထံ သစ္စာခံကာ အစ္စလာမ်သာသနာကို လက်ခံခဲ့ကြသည်။ ဤတစ်နှစ်ထဲတွင် မဒီနာမြို့သို့ရောက်ရှိလာသော အဖွဲ့အရေအတွက်မှာ (၇၀) ကျော်ရှိသည်။ ထိုကြောင့် ဤနှစ်ကို အာမွလ်ဝုဖူးဒ် (ကိုယ်စားလှယ်အဖွဲ့များလာရောက်သောနှစ်) ဟုခေါ်သည်။

## ဟဂ်ျဂျသွလ်ဝဒါ့အ်

ဟိဂျ်ရီ (၁၀) ခုနှစ်တွင် တမန်တော်မြတ် ﷺ သည် မက္ကာဟ်မြို့သို့ ဟဂ်ျပြုရန် ထွက်ခွာလာခဲ့သည်။ တမန်တော်မြတ် ﷺ နှင့်အတူ ဟဂ်ျပြုရန်အတွက် အာရေဗျကျွန်းဆွယ်အနှံ့မှ မွတ်စ်လင်မ်တစ်သိန်းခန့် လိုက်ပါလာခဲ့သည်။ ဤဟဂ်ျတွင် တမန်တော်မြတ် ﷺ သည်

မွတ်စ်လင်မ်တို့အား အစ္စလာမ်သာသနာ၏ အနှစ်သာရများကို ဟောပြောပို့ချခဲ့ပြီး အစ္စလာမ်သာသနာကို ဆက်လက်ဖြန့်ချီရန်အတွက် ညွှန်ကြားခဲ့သည်။ ဤဟဂျ်ကို ဟဂျ်ဂျသွလ်ဝဒါအ်ဟုခေါ်သည်။

## တမန်တော်မြတ် ﷺ ကွယ်လွန်ခြင်း

ဟဂျ်မှအပြန်သုံးလအကြာတွင် တမန်တော်မြတ် ﷺ နာမကျန်း ဖြစ်ခဲ့သည်။ ရောဂါပြင်းထန်လာသောအခါ အဗူဗက်ရ် ﷺ ကို မိမိကိုယ်စား မက်စ်ဂျေဒေနဗဝီ၏ အေမာမ်အဖြစ်ဆောင်ရွက်ရန် ခန့်အပ်ခဲ့သည်။ ထို့နောက်ဟိဂျ်ရီ (၁၁) ခုနှစ်၊ ရဗီအွလ် အောင်ဝလ် (၁၂) ရက် တနင်္လာနေ့။ ခရစ်နှစ် (၆၃၂) ခုနှစ် ဂျွန်လ (၈) ရက်နေ့တွင် တမန်တော်မြတ် ﷺ ကွယ်လွန်တော်မူခဲ့သည်။

## တမန်တော်မြတ် ﷺ ခေတ် လုပ်ဆောင်ချက်များ

မက်စ်ဂျေဒေနဗီဝီသည် စုပေါင်းဝတ်ပြုရန်အတွက်သာမက တမန်တော်မြတ် ﷺ ၏ အစ္စလာမ့်ဖိတ်ခေါ်ရေး၊ သင်ကြားရေး၊ သံတမန်ရေးနှင့် အုပ်ချုပ်ရေးဆိုင်ရာကိစ္စများ ဆောင်ရွက်ရာ ဗဟိုဌာနချုပ် ဖြစ်ခဲ့သည်။ ယခင်အာရေဗျဒေသတွင် မည်သူမျှ စိတ်ကူးမယဉ်ခဲ့ဖူးသည့် အရဗ်မျိုးနွယ်စုများ စည်းလုံးညီညွတ်ရေးကို ဖော်ဆောင်နိုင်ခဲ့သည်။ မွတ်စ်လင်မ်မဟုတ်သူများနှင့် ပတ်သတ်၍ တာဝန်ပိုင်းဆိုင်ရာနှင့် ရပိုင်ခွင့်ဆိုင်ရာဥပဒေများကို ပြဋ္ဌာန်းပေးခဲ့သည်။

တမန်တော်မြတ် ﷺ သည် မဒီနာမြို့တော်ဗဟိုပြု အစ္စလာမ့်နိုင်ငံ၏ သာသနာရေးနှင့် အုပ်ချုပ်ရေးဆိုင်ရာ အမြင့်ဆုံးအာဏာပိုင် ဖြစ်သည်။ အာရေဗျကျွန်းဆွယ်ရှိ ဒေသအများစုသည် အစ္စလာမ့်

နိုင်ငံတော်၏ အုပ်ချုပ်မှုအောက်သို့ ရောက်ရှိလာခဲ့သည်။ ထိုဒေသများတွင် တမန်တော်မြတ် ﷺ သည် ခေါင်းဆောင်မှုအရည်အသွေးပြည့်မီသူများကို အုပ်ချုပ်ရေးမှူးများအဖြစ် ခန့်အပ်ခဲ့သည်။ အစ္စလာမ်သာသနာ၏ အခြေခံစည်းမျဉ်းဥပဒေအားလုံး ခိုင်မာစွာ အသက်ဝင်လာခဲ့ပြီဖြစ်သည်။ တမန်တော်မြတ် ﷺ ခေတ်တွင် အစ္စလာမ့်လမ်းစဉ်အတိုင်း လျှောက်လှမ်းသော မွတ်စ်လင်မ်လူ့အဖွဲ့အစည်းတစ်ရပ် ပေါ်ပေါက်လာခဲ့ပြီဖြစ်သည်။

# အပိုင်း (၃)

# ခိုလာဖာအေ့ရာရှေဒီးန်ခေတ်

# (ဟိဂ်ျရီ ၁၁ - ၄၁) (ခရစ်နှစ် ၆၃၂ - ၆၆၁)

(အုပ်ချုပ်သည့်ကာလ - ၃၀ နှစ်)

## ပထမခလီဖာကြီးအဗူဗက်ရ် ﵁ (ဟိဂ်ျရီ ၁၁ - ၁၃)

တမန်တော်မြတ် ﷺ ကွယ်လွန်ပြီးနောက် ကစဥ့်ကလျား ဖြစ်သွားခဲ့သော အခြေအနေအရပ်ရပ်ကို အဗူဗက်ရ် ﵁ က အကောင်း ဆုံးထိန်းသိမ်းပေးနိုင်ခဲ့သည်။ အဗူဗက်ရ် ﵁ သည် တမန်တော်မြတ် ﷺ အစ္စလာမ့်ရေးရာလှုပ်ရှားမှုများ စတင်ပြုလုပ်ချိန်မှစ၍ ကွယ်လွန်ချိန် အထိ တမန်တော်မြတ် ﷺ နှင့် အတူရပ်တည်ကြိုးပမ်းခဲ့သူဖြစ်သည်။ တမန်တော်မြတ် ﷺ နှင့် အရင်းနှီးဆုံး ဆွဟာဗာကြီးတစ်ဦးလည်း ဖြစ်သည်။ ပိုင်ဆိုင်သမျှ ငွေကြေးဥစ္စာများကို အစ္စလာမ်သာသနာ အတွက် အသုံးချခဲ့သူဖြစ်သည်။

မွတ်စ်လင်မ်အများ၏ ရွေးချယ်တင်မြှောက်မှုကြောင့် အဗူဗက်ရ် ﵁ သည် ပထမဆုံးခလီဖာကြီး ဖြစ်လာခဲ့သည်။ အမှန်တရားနှင့်အညီ အုပ်ချုပ်ပါက ကူညီကြရန် အမှားအယွင်းပြုမိပါက ဝိုင်းဝန်းတည့်မတ် ပေးကြရန် မွတ်စ်လင်မ်တို့ကို မိန့်ခွန်းပြောပြီး အဗူဗက်ရ် ﵁ သည် မိမိ၏အုပ်ချုပ်မှုကို အစပြုခဲ့သည်။

တမန်တော်မြတ်သည် ﷺ မကွယ်လွန်မီအချိန်တွင် အိုစာမဟ် ဗင်န်ဇိုင်းဒ် ﵁ ကို ခေါင်းဆောင်ခန့်ကာ စစ်သည်အင်အားငါးထောင်ပါ

သော စစ်တပ်တစ်တပ်ကို ဂျော်ဒန်နိုင်ငံ ဘလ်ကာ့အ်ဒေသသို့ ချီတက်စေခဲ့သည်။ ထိုဒေသရှိရောမစစ်တပ်သည် အိုစာမာဗင်န်ဇိုင်းဒ် ﷺ ၏ ဖခင် ဇိုင်းဒ်ဗင်န်ဟာရေစာ ﷺ ကို သတ်ဖြတ်ခဲ့ကြသူများ ဖြစ်သည်။ အုပ်ချုပ်သူအပြောင်းအလဲဖြစ်ချိန်တွင် နိုင်ငံတော်အင်အား တစုတစည်းတည်း ရှိနေရန်တွက် ထိုစစ်တပ်ကို မစေလွှတ်ဘဲ မဒီနာမြို့တွင်သာ ထားရှိရန် အခြားဆွဟာဗာကြီးများက အဗူဗက်ရ် ﷺ ကို အကြံပေးကြသည်။ သို့သော်အဗူဗက်ရ် ﷺ က ထိုအကြံကို လက်မခံဘဲ တမန်တော်မြတ် ﷺ ၏အမိန့်အတိုင်း အိုစာမာဟ်ဗင်န်ဇိုင်းဒ် ﷺ ဦးဆောင်သောစစ်တပ်ကို ချီတက်ရန် ညွှန်ကြားခဲ့သည်။ ထို့ကြောင့် အိုစာမာဗင်န်ဇိုင်းဒ် ﷺ ဦးဆောင်သော မွတ်စ်လင်မ်စစ်တပ်သည် ဘလ်ကာ့အ်ဒေသသို့ ချီတက်တိုက်ခိုက်ရာ အောင်နိုင်ခဲ့ပြီး သုံ့ပန်းပစ္စည်းများစွာရရှိခဲ့သည်။ ဤအောင်နိုင်မှုသည် အစ္စလာမ့်အောင်နိုင်ရေးလမ်းကြောင်း၏ ပထမဦးဆုံးခြေလှမ်းဖြစ်ခဲ့သည်။

အဗူဗက်ရ် ﷺ စတင်ခလီဖာဖြစ်ပြီးနောက် ပထမဆုံးဖြေရှင်းရသည့် ပြဿနာများမှာ မျိုးနွယ်စုအချို့က အစ္စလာမ့်အခြေအမြစ်အမိန့်တစ်ခုဖြစ်သည့် ဇကားသ်ပေးခြင်းအမိန့်ကို ငြင်းဆန်ခြင်း၊ အချို့မျိုးနွယ်စုများ အစ္စလာမ်သာသနာကို စွန့်လွှတ်ခြင်း၊ လူလိမ်အချို့က မိမိတို့ကိုယ်ကို နဗီအဖြစ်ကြေညာခြင်း စသည်တို့ဖြစ်သည်။ ထို့ကြောင့် အဗူဗက်ရ် ﷺ က ထိုပြဿနာများဖြစ်ပွားသည့် ယမာမာ၊ ဘာရိန်း၊ အိုမန်နှင့် ယီမင် ဒေသများသို့ အစ္စလာမ့်စစ်တပ်များ စေလွှတ်ခဲ့သည်။ ခါလိဒ်ဗင်န်ဝလီးဒ်၊ အိက်ရေမဟ်ဗင်န်အဗီဂျဟလ်၊ အမ်ရ်ဗင်န်အားဆ့် ﷺ စသည့် တပ်မှူးများ၏ ဦးဆောင်မှုအောက်တွင် ထိုစစ်ပွဲများအားလုံး၌ အစ္စလာမ့်စစ်တပ်များအနိုင်ရခဲ့သည်။ အာရေဗျကျွန်းဆွယ်တစ်ခုလုံး ပြန်လည်စည်းလုံးသွားခဲ့သည်။

ထို့နောက် ခလီဖာကြီးအဗူဗက်ရ် ﷺ သည် ဟိဂျ်ရီ (၂) ခုနှစ်တွင် ခါလိဒ်ဗင်န်ဝလီးဒ် ﷺ ကို တပ်မှူးခန့်၍ အင်အားတစ်သောင်းခွဲပါသော စစ်တပ်ကို ပါရှန်းအင်ပါယာ လက်အောက်ခံ အီရတ်နိုင်ငံတောင်ပိုင်းရှိ ဟီရာမြို့သို့စေလွှတ်ခဲ့သည်။ အစ္စလာမ့်စစ်တပ်သည် ဟီရာမြို့အပါအဝင် ယူဖရေးတီး မြစ်ကမ်းတစ်လျှောက်ရှိ ပါရှန်းအင်ပါယာပိုင် အီရတ်နယ်မြေအချို့ကို အောင်နိုင်ခဲ့သည်။

ထို့နောက် ရောမအင်ပါယာလက်အောက်ခံ ရှာမ် (ဆီရီးယား) ဒေသသို့ စစ်ကြောင်းလေးခု စေလွှတ်ခဲ့သည်။ စုစုပေါင်းအင်အားမှာ သုံးသောင်းခြောက်ထောင်ဖြစ်သည်။ ရောမဧကရာဇ် ဟီရာကလီး ရက်စ်က အင်အားရှစ်သောင်းပါသော ရောမစစ်တပ်ကို စေလွှတ်ပြီး တိုက်ခိုက်ရန် ပြင်ဆင်ခဲ့သည်။ ယရ်မူးက်စစ်မြေပြင်တွင် နှစ်ဖက်စစ်တပ်များ တိုက်ပွဲဖြစ်ပွားခဲ့သည်။ စစ်ပွဲပြင်းထန်လာသောအခါ ရောမဘက်မှ စစ်ကူများစွာရောက်ရှိလာပြီး အင်အားနှစ်သိန်း လေးသောင်းခန့်ဖြစ်သွားခဲ့သည်။ အစ္စလာမ့်စစ်တပ်အင်အားမှာ လေးသောင်းခန့်ဖြစ်သည်။ ထို့ကြောင့် ခလီဖာကြီးက အီရတ်စစ်မြေပြင်ရှိ ဗိုလ်မှူးခါလိဒ်ဗင်န်ဝလီးဒ် ﷺ ဦးဆောင်သော စစ်တပ်ကို စစ်ကူအဖြစ် ယရ်မူးက်စစ်မြေပြင်သို့ စေလွှတ်ခဲ့သည်။ ခါလိဒ်ဗင်န် ဝလီးဒ် ﷺ ကို အစ္စလာမ့်စစ်တပ်၏ ခေါင်းဆောင်အဖြစ်ခန့်အပ်ပြီး ဆက်လက်တိုက်ပွဲဝင်စေခဲ့သည်။ ယရ်မူးက်စစ်ပွဲ အပြင်းအထန်ဖြစ်နေချိန် ဟိဂျ်ရီ (၁၃) ခုနှစ်၊ ခရစ်နှစ် (၆၃၄) ခုနှစ်တွင် ခလီဖာကြီး အဗူဗက်ရ် ﷺ ကွယ်လွန်ခဲ့သည်။ အုပ်ချုပ်ခဲ့သည့် သက်တမ်းမှာ (၂) နှစ်နှင့် သုံးလခန့်ဖြစ် သည်။

ခလီဖာကြီး အဗူဗက်ရ် ﷺ လက်ထက်တွင် ကုရ်အာန်ကျမ်းမြတ်ကို စုစည်းမှတ်တမ်းတင်ခဲ့ပြီဖြစ်သည်။

## ဒုတိယခလီဖာကြီး အုမရ် ﷺ (၁၃ - ၂၃ ဟိဂျ်ရီ)

အဗူဗက်ရ် ﷺ ၏ ခန့်အပ်မှုကြောင့် အုမရ် ﷺ ခလီဖာဖြစ်လာခဲ့သည်။ အုမရ် ﷺ သည် ရဲရင့်ပြတ်သားပြီး အရှိန်အဝါကြီးသူဖြစ်သည်။ အုမရ် ﷺ ခလီဖာဖြစ်ချိန်တွင် အစ္စလာမ့်စစ်တပ်နှင့် ရောမစစ်တပ်တို့သည် ဆီရီးယားနှင့် ဂျော်ဒန်နယ်စပ်ရှိ ယရ်မူးက်စစ်မြေပြင်တွင် အပြင်းအထန်တိုက်ပွဲဖြစ်ပွားနေဆဲဖြစ်သည်။ အင်အားအဆမတန် သာလွန်သော ရောမစစ်တပ်ကို အစ္စလာမ့်စစ်တပ်က ယရ်မူးက်စစ်မြေပြင်တွင် အနိုင်ရခဲ့သည်။ ထို့နောက် ဆက်လက်ချီတက်တိုက်ခိုက်ရာ ရောမအင်ပါယာပိုင် ဆီးရီးယားနှင့် ပါလက်စတိုင်းဒေသများကို အောင်နိုင်ခဲ့သည်။

ဟိဂျ်ရီ (၁၆) ခုနှစ်၊ ခရစ်နှစ် (၆၃၇) ခုနှစ်တွင် ဗိုင်သွလ်မုကဒ္ဒက်စ်ရှိရာ ဂျေရုစလင်မြို့သို့ အစ္စလာမ့်စစ်တပ် ရောက်ရှိလာခဲ့သည်။ မြို့နေခရစ်ယာန်ဘုန်းတော်ကြီးများက ခလီဖာကိုယ်တိုင်လာရောက်ပါက မြို့ကိုအပ်နှံမည်ဟု ကတိပြုသောကြောင့် အုမရ် ﷺ သည် မဒီနာမြို့တော်မှ ဂျေရုစလင်မြို့သို့သွားရောက်ပြီး မြို့ကိုရယူခဲ့သည်။ မြို့သူမြို့သားတို့၏ အသက်၊ အိုးအိမ်၊ စည်းစိမ်တို့ကို မထိပါးဘဲ လွတ်လပ်စွာကိုးကွယ် ခွင့်ပေးခဲ့သည်။

ထို့နောက် ခလီဖာကြီးအုမရ် ﷺ သည် စအဒ်ဗင်န်အဗီဝက္ကားဆ္ ﷺ ကို စစ်ဗိုလ် ချုပ်အဖြစ်ခန့်အပ်ကာ ပါရှန်းတို့ကိုတိုက်ခိုက်ရန်အတွက် အစ္စလာမ့်စစ်တပ်ကို စေလွှတ်ခဲ့ သည်။ ပါရှန်းစစ်ဗိုလ်ချုပ် ရွတ်စ်သွမ်က အစ္စလာမ့်စစ်တပ်ထက် လေးဆခန့်အရေအတွက်များသောစစ်တပ်ဖြင့် ရင်ဆိုင်တိုက်ခိုက်ရန် ပြင်ဆင်ခဲ့သည်။ ဟိဂျ်ရီ (၁၇) ခုနှစ်၊ ခရစ်နှစ် (၆၃၇) ခုနှစ်တွင် အီရတ်နိုင်ငံ ကာဒေစီယာဒေသ၌ နှစ်ဖက်စစ်တပ်များ အပြင်းအထန်တိုက်ခိုက်ခဲ့သည်။ (၄) ရက်ဆက်တိုက် တိုက်ပွဲဖြစ်ပွားခဲ့

ပြီး အစ္စလာမ့်စစ်တပ် အနိုင်ရခဲ့သည်။ မွတ်စ်လင်မ်စစ်သည် (၈၀၀၀) ခန့်ရှဟီးဒ်ဖြစ်ကျဆုံးခဲ့ပြီး ပါရှန်းစစ်သည် (၃၀၀၀၀) ခန့် ဗိုလ်မှူး ရွတ်စ်သွမ်နှင့်အတူ ကျဆုံးခဲ့သည်။

ကာဒီစီယာစစ်ပွဲတွင် အနိုင်ရပြီးနောက် နှစ်လအကြာတွင် ပါရှန်းအင်ပါယာမြို့တော် မဒါအင်မြို့သို့ အစ္စလာမ့်စစ်တပ် ရောက်ရှိလာခဲ့သည်။ ပါရှန်းတို့က အီရန်နိုင်ငံ နဟာဝန့်ဒ်မြို့တွင် လက်ကျန်စစ်တပ်အားလုံးကို စုစည်းပြီး အစ္စလာမ့်စစ်တပ်ကို တိုက်ခိုက်ရန် ပြင်ဆင်ခဲ့သည်။ ပါရှန်းတို့၏စစ်အင်အားမှာ စစ်သည်တစ်သိန်းခွဲဖြစ်ပြီး အစ္စလာမ့်စစ်တပ်အင်အားမှာ စစ်သည်သုံးသောင်းဖြစ်သည်။ ဤနဟာဝန့်ဒ်စစ်ပွဲ (ဟိဂျ်ရီ ၂၁ ခုနှစ်၊ ခရစ်နှစ် ၆၄၂ ခုနှစ်) တွင်လည်း အစ္စလာမ့်စစ်တပ် အနိုင်ရခဲ့သည်။ ရလဒ်အနေဖြင့် နှစ်ပေါင်း (၄၀၀) ကျော်တည်တံ့ခဲ့သော ပါရှန်းအင်ပါယာ အပြီးတိုင်ပြိုလဲခဲ့သည်။ ထို့နောက်ပါရှန်း အင်ပါယာပိုင်နယ်မြေများ မွတ်စ်လင်မ်တို့လက်အောက်သို့ ကျရောက်ခဲ့သည်။

ပါလက်စတိုင်းဒေသကို ဆုံးရှုံးပြီးနောက် ရောမတို့သည် အီဂျစ်နိုင်ငံသို့ ဆုတ်ခွာပြီး စစ်အင်အားများကို စုစည်းခဲ့ကြသည်။ မွတ်စ်လင်မ်စစ်ဗိုလ်ချုပ်အမ်ရ်ဗင်အားဆ် ﷺ က ခလီဖာ-ကြီးအုမရ် ﷺ ထံ ခွင့်တောင်းကာ အင်အားလေးထောင်ပါသောစစ်တပ်ဖြင့် အီဂျစ်သို့ ချီတက်လာခဲ့ပြီး ရောမမြို့စောင့်တပ်ရှိရာ ဘေဘီလုံမြို့ကို ဝန်းရံတိုက်ခိုက်ခဲ့သည်။ ခလီဖာကြီးက အင်အားရှစ်ထောင်ပါသောစစ်တပ်ကို တပ်ကူအဖြစ် စေလွှတ်ခဲ့သည်။ ဘေဘီလုံမြို့ကို အောင်နိုင်ပြီးနောက် အလက်ဇန်းဒါးမြို့ကို ဆက်လက်ဝန်းရံတိုက်ခိုက်ခဲ့သည်။ နောက်ဆုံးတွင် ရောမအုပ်ချုပ်ရေးမှူးက စစ်ပြေငြိမ်းရေးအတွက် ကမ်းလှမ်းခဲ့သည်။ ရောမတပ်ကို ဆုတ်ခွာခွင့်ပေးပြီး ခရစ်ယာန်တို့၏အသက်၊ အိုးအိမ်၊ စည်းစိမ်တို့ကိုမထိပါးဘဲ လွတ်လပ်စွာကိုးကွယ်ခွင့်ပေးရမည်

ဟူသော စည်းကမ်းချက်များနှင့် စစ်ပြေငြိမ်းမှုရခဲ့ပြီး ဟိဂျ်ရီ (၂၁) ခုနှစ် ခရစ်နှစ် (၆၄၂) ခုနှစ်တွင် အီဂျစ်ဒေသကို အစ္စလာမ့်စစ်တပ် အောင်နိုင်ခဲ့သည်။ ရောမတို့၏ နှိပ်စက်ညှင်းပန်းမှုများကို ခံစားခဲ့ရသော အီဂျစ်တို့သည် တရားမျှတပြီး ကိုယ်ကျင့်စာရိတ္တကောင်းမွန်သော မွတ်စ်လင်မ်တို့ကို ဝမ်းပန်းတသာ ကြိုဆိုခဲ့ကြသည်။

ခလီဖာကြီးအုမရ် ﷺ သည် အုပ်ချုပ်ရေးကို ကျွမ်းကျင်ပိုင်နိုင်သူဖြစ်သည်။ တရားမျှတမှုကို လက်ကိုင်ထားပြီး နိုင်ငံသားတိုင်း၏ ရပိုင်ခွင့်များကို အပြည့်အဝ ဖြည့်ဆည်းပေးခဲ့သည်။ အနေအထိုင်ရိုးရှင်းပြီး အင်္ကျီအဖာအထေးများကို ဝတ်ဆင်လေ့ရှိသည်။ ကျယ်ပြန့်လာသော အစ္စလာမ့်အင်ပါယာကို ပြည်နယ်များခွဲကာ အရည်အချင်းရှိသည့် အုပ်ချုပ်ရေးမှူးများ ခန့်အပ်ပေးခဲ့သည်။ တရားစီရင်ရေးတွင် အုပ်ချုပ်သူများ ဝင်ရောက်ခြယ်လှယ်ခြင်းမပြုနိုင်ရန် သီးသန့်တရားသူကြီးများ ခန့်အပ်ခဲ့သည်။ နိုင်ငံတော်ဘဏ္ဍာတိုက်ကိုတည်ထောင်ပြီး နိုင်ငံတော်၏ဝင်ငွေထွက်ငွေများကို စနစ်တကျ မှတ်တမ်းတင်ခဲ့သည်။ တရားဥပဒေစိုးမိုးရေးအတွက် စစ်ဆေးရေးဌာနများ တည်ထောင်ခဲ့သည်။ ခလီဖာကြီးသည် အစ္စလာမ့်ဟိဂျ်ရီခုနှစ်ကို စတင်တီထွင်သတ်မှတ်ခဲ့သူလည်းဖြစ်သည်။ အင်ပါယာတစ်ဝှမ်းသို့ ပညာရှင်များစေလွှတ်ပြီး စနစ်တကျ ပညာဖြန့်ဝေခဲ့သည်။

ခလီဖာကြီးအုမရ် ﷺ သည် မဂျူစီတစ်ဦး၏လုပ်ကြံမှုကြောင့် ဟိဂျ်ရီ (၂၃) ခုနှစ်၊ ခရစ်နှစ် (၆၄၄) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ မကွယ်လွန်မီအချိန်တွင် အုမရ် ﷺ သည် ဆွဟာဗာကြီး (၆) ဦးကို ရွေးချယ်ပေးခဲ့ပြီး ထိုခြောက်ဦးအနက်မှ တစ်ဦးကို ခလီဖာအဖြစ် ရွေးချယ်တင်မြှောက်ကြရန် မှာတမ်းခဲ့သည်။ ဒုတိယခလီဖာကြီးအုမရ် ﷺ ၏ အုပ်ချုပ်မှု သက်တမ်းမှာ (၁၀) နှစ် (၆) လခန့်ဖြစ်သည်။

## တတိယခလီဖာကြီးအွစ်မားန် ﷺ (ဟိဂျ်ရီ ၂၃ - ၃၅)

အုမရ် ﷺ ရွေးချယ်ပေးခဲ့သော ဆွဟာဗာကြီး (၆) ပါးအနက် အွစ်မားန် ﷺ သည် တတိယမြောက်ခလီဖာအဖြစ် ရွေးချယ်တင်မြှောက်ခံရသည်။ ချမ်းသာကြွယ်ဝပြီး သဒ္ဒါတရားထက်သန်သော အွစ်မားန် ﷺ သည် တမန်တော်မြတ် ﷺ ၏သမက်တော်တစ်ဦးဖြစ်သည်။ သာသနာ့အကျိုးအတွက် မိမိ၏ငွေကြေးဥစ္စာများစွာကို သုံးစွဲခဲ့သူဖြစ်သည်။ အွစ်မားန် ﷺ ၏ အုပ်ချုပ်မှုကာလတွင် အစ္စလာမ့်စစ်တပ်သည် အာမေးနီယား၊ ခိုရာစာန်၊ ကာမန်၊ အဇာဘိုင်ဂျန်၊ အလ်ဆာ့စ်စသည့်ဒေသများနှင့် ဆိုက်ပရက်စ်ကျွန်းတို့ကို အောင်နိုင်ခဲ့သည်။ ခလီဖာကြီးအွစ်မားန် ﷺ လက်ထက်တွင် ပထမဆုံးအစ္စလာမ့်ရေတပ်ကို တည်ထောင်ခဲ့သည်။

အွစ်မားန် ﷺ အုပ်ချုပ်ခဲ့သော (၁၂) နှစ်ကာလ၏ ပထမပိုင်းသည် တည်ငြိမ်အေးချမ်းမှုအပြည့်နှင့် ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ အာဖရိကမြောက်ပိုင်းဒေသများတွင် အရဗ်လူမျိုးအများအပြား ရောက်ရှိအခြေချနေထိုင်ခဲ့သည်။ ကုရ်အာန်ကျမ်းမြတ်ကို ပုံစံတစ်မျိုးတည်းဖြင့် ကျမ်းစာတစ်အုပ်ထဲတွင် စုစည်းပြီး ဆင့်ပွားကူးယူစေကာ ပြည်နယ်အသီးသီးတွင် ဖြန့်ဝေပေးခဲ့သည်။

ဒုတိယပိုင်းအုပ်ချုပ်မှုကာလတွင် ခလီဖာကြီးသည် အသက်အရွယ်ကြီးရင့်လာပြီဖြစ်၍ နိုင်ငံတော်အုပ်ချုပ်ရေးကို ပိုမိုလွယ်ကူစွာလည်ပတ်စေနိုင်ရန် ဆွေမျိုးရင်းချာများ၏ အကူအညီကို ရယူခဲ့သည်။ ဒုတိယခလီဖာကြီး လက်ထက်တွင် တာဝန်ထမ်းဆောင်ခဲ့သော ပြည်နယ်အုပ်ချုပ်ရေးမှူးများကို ဖြုတ်ချပြီး ဆွေမျိုးအချို့ကို တာဝန်ပေးခန့်အပ်ခဲ့သည်။ သို့သော် ထိုအသစ်ခန့်အပ်သော အုပ်ချုပ်ရေးမှူးအချို့သည် တရားလက်မဲ့ ပြုမူခဲ့ကြသည်။ ထိုအချိန်တွင် အစ္စလာမ့်အရေခြုံ

အဗ်ဒွလ္လာဟ်ဗင်န်စဗာ့အ်၏ လှုံ့ဆော်မှုဖြင့် ထိုမတရားအုပ်ချုပ်ရေးမှူးများ အုပ်ချုပ်သည့် ပြည်နယ်များတွင် ပုန်ကန်ထကြွမှုများ ပေါ်ပေါက်လာပြီး ပုန်ကန်သူများက ခလီဖာကြီးကို ဖြုတ်ချရန် မဒီနာမြို့တော်သို့ ချီတက်လာခဲ့သည်။

ထိုအခါ မဒီနာမြို့တော်ရှိ အကြီးအကဲများက ပုန်ကန်သူများကို ရင်ဆိုင်ခုခံရန်အတွက် ခလီဖာကြီးကို အကြံပေးကြသည်။ သို့သော် ခလီဖာကြီးက မွတ်စ်လင်မ်အချင်းချင်း သွေးချောင်းစီးတိုက်ပွဲများ ဖြစ်ပွားရန် မလိုလားသောကြောင့် ထိုအကြံပြုချက်ကို လက်မခံခဲ့ပေ။ ထိုပုန်ကန်သူများ မဒီနာမြို့သို့ ရောက်သောအခါ ခလီဖာကြီးက ကြုံကြိုက်နေရသောအခက်အခဲများကို ဖြေရှင်းပေးမည်ဟု ကတိပြုသောကြောင့် ပုန်ကန်သူများ ပြန်လှည့်သွားခဲ့သည်။ သို့သော် လမ်းခုလတ်တွင် မသမာသူတို့၏ လှုံ့ဆော်မှုကြောင့် ခလီဖာကြီးကို အထင်လွဲကာ မဒီနာမြို့သို့ ပြန်လှည့်လာပြီး ခလီဖာကြီး၏နေအိမ်ကို ရက်ပေါင်း (၄၀) ခန့် ဝန်းရံထားခဲ့ကြသည်။ ဤအချိန်တွင် ခလီဖာကြီးသည်အသက် (၈၀) ကျော်ပြီဖြစ်သည်။ ပုန်ကန်သူများသည် ခလီဖာကြီး၏နေအိမ်ကို ဝန်းရံပိတ်ဆို့ပြီး အစာရေစာဖြတ်တောက်လိုက်ကြသည်။ ထို့နောက် အိမ်အတွင်းသို့ဝင်ရောက်ကာ ကုရ်အာန်ကျမ်းမြတ်ရွတ်ဖတ်နေသော ခလီဖာကြီးကို လုပ်ကြံသတ်ဖြတ်လိုက်ကြသည်။

တတိယခလီဖာကြီးအွစ်မားန် ﵁ သည် ဟိဂ်ျရီ (၃၅) ခုနှစ် ခရစ်နှစ် (၆၅၆) ခုနှစ်တွင် ရှဟီးဒ်ဖြစ်ကွယ်လွန်ခဲ့သည်။ ခလီဖာကြီး၏ အုပ်ချုပ်မှုသက်တမ်းမှာ (၁၂) နှစ်ခန့်ဖြစ်သည်။

## စတုတ္ထခလီဖာကြီးအလီ رضي الله عنه (ဟိဂျ်ရီ ၃၅ - ၄၀)

အွစ်မားန် رضي الله عنه ကွယ်လွန်ပြီးနောက် ဆွဟာဗာကြီးအချို့က အလီ رضي الله عنه ကို ခလီဖာရာထူးရယူရန် တိုက်တွန်းခဲ့သော်လည်း အလီ رضي الله عنه က လက်မခံခဲ့ပေ။ သို့သော် အလေးအနက်တိုက်တွန်းမှုများကြောင့် မလွှဲသာ၍ ခလီဖာရာထူးကို ရယူခဲ့သည်။ အလီ رضي الله عنه သည် တမန်တော်မြတ် ﷺ ၏ သမက်တော်တစ်ဦးဖြစ်ပြီး ပထမဦးဆုံး အီမာန်သက်ဝင်ယုံကြည်ခဲ့သူများထဲတွင် ပါဝင်သည်။ ရဲစွမ်းသတ္တိပြည့်ဝသော ပညာရှင်ဆွဟာဗာတစ်ဦးလည်းဖြစ်သည်။

ခလီဖာတာဝန်ကိုရယူပြီး အလီ رضي الله عنه သည် တတိယခလီဖာကြီး အွစ်မားန် رضي الله عنه ရှဟီးဒ်ဖြစ်ရခြင်း၏ အဓိကအကြောင်းခံဖြစ်သော ပြည်နယ်အုပ်ချုပ်ရေးမှူးများကို တာဝန်မှရပ်စဲခဲ့သည်။ ထိုအုပ်ချုပ်ရေးမှူးများကလည်း ရာထူးမှနုတ်ထွက်ပေးကြသည်။ သို့သော် ဆီးရီးယားဒေသအုပ်ချုပ်ရေးမှူး မုအာဝေယာ رضي الله عنه က အွစ်မားန် رضي الله عنه ကို သတ်ဖြတ်ခဲ့သူများအား ပထမဦးစွာအရေးယူပေးရန် တောင်းဆိုပြီး ရာထူးမှနုတ်ထွက်ရန် ငြင်းဆိုခဲ့သည်။ အလီ رضي الله عنه သည် မဒီနာမြို့မှ အီရတ်နိုင်ငံ ကူဖာမြို့သို့ ပြောင်းရွှေ့ရုံးစိုက်ခဲ့သည်။ အလီ رضي الله عنه သည် အုပ်ချုပ်ရေးအခြေခိုင်အောင်ဆောင်ရွက်ပြီးမှသာ လူသတ်သမားများကို အရေးယူရန် ဆန္ဒရှိခဲ့သည်။

ထိုကဲ့သို့ အလီ رضي الله عنه နှင့် မုအာဝေယာ رضي الله عنه တို့ ပြဿနာဖြစ်ပွားနေစဉ် မက္ကာဟ်မြို့၌ ဇိုဗိုင်းရ် رضي الله عنه နှင့် ဍွလ်ဟာ رضي الله عنه တို့ဦးဆောင်သော အုပ်စုက အွစ်မားန် رضي الله عنه ကို သတ်ဖြတ်သူတို့အား အရေးယူပေးရန် တောင်းဆိုခဲ့ကြသည်။ ထိုအုပ်စုထဲတွင် မိခင်မွန်ကြီးအာအေရှာ رضي الله عنها လည်း ပါဝင်ခဲ့သည်။ ထိုအုပ်စုသည် အလီ رضي الله عنه ရုံးစိုက်ရာ ကူဖာမြို့သို့ ချီတက်လာခဲ့ကြသည်။ ထို့ကြောင့် အလီ رضي الله عنه သည် စစ်တပ်ကို

ဦးဆောင်ပြီး ခုခံရင်ဆိုင်ရန် ချီတက်လာခဲ့သည်။ နှစ်ဖက်ဆွေးနွေးညှိနှိုင်းပြီး ပြေလည်လုနီးပါးဖြစ်ခဲ့သည်။ သို့သော် အလီ ﵁ ၏ စစ်တပ်ထဲတွင် မသိမသာလိုက်ပါလာခဲ့သော လူသတ်တရားခံများက နှစ်ဖက်ပြေလည်ပြီးချိန်တွင် အပြစ်ပေးခံရမည်ကိုစိုးရိမ်ပြီး စတင်တိုက်ခိုက်ခဲ့ကြသည်။ ထို့ကြောင့် တိုက်ပွဲဖြစ်ပွားခဲ့ပြီး အလီ ﵁ ဦးဆောင်သောစစ်တပ် အနိုင်ရခဲ့သည်။ ဤစစ်ပွဲကို ဂျမလ်စစ်ပွဲဟု ခေါ်ပြီး ဟိဂျ်ရီ (၃၆) ခုနှစ်၊ ခရစ်နှစ် (၆၅၆) ခုနှစ်တွင် ဖြစ်ပွားခဲ့သည်။

ထို့နောက် အလီ ﵁ နှင့် မုအာဝေယာ ﵁ တို့အကြား ဆွေးနွေးညှိနှိုင်းမှုများ ပြုခဲ့ကြသော်လည်း မအောင်မြင်ခဲ့ပေ။ ထို့ကြောင့် ယူဖရေးတီးမြစ်အနောက်ဘက် ဆွစ်ဖ်ဖီးန်အမည်ရနေရာတွင် နှစ်ဖက်တပ်များ ရင်ဆိုင်တိုက်ပွဲဖြစ်ပွားခဲ့ကြသည်။ သုံးရက်တိတိ တိုက်ပွဲဖြစ်ပွားခဲ့ပြီး အလီ ﵁ ၏စစ်တပ် အသာစီးရခဲ့သည်။ ထို့နောက် မုအာဝေယာ ﵁ ဘက်မှ တောင်းဆိုမှုကြောင့် နှစ်ဖက်ကိုယ်စားလှယ်များ ဆွေးနွေးပြီး အဖြေရှာရန်အတွက် စစ်ပွဲကို ရပ်ဆိုင်းထားခဲ့ကြသည်။ နှစ်ဖက်ကိုယ်စားလှယ်များ တွေ့ဆုံဆွေးနွေးခဲ့သော်လည်း မုအာဝေယာ ﵁ တို့ဘက်မှ ပရိယာယ်ဆင်ခဲ့သောကြောင့် ပြေလည်မှု မရခဲ့ပေ။ ဤစစ်ပွဲကို ဆွစ်ဖ်ဖီးန်စစ်ပွဲဟု ခေါ်ပြီး ဟိဂျ်ရီ (၃၈) ခုနှစ်၊ ခရစ်နှစ် (၆၅၇) ခုနှစ်တွင် ဖြစ်ပွားခဲ့သည်။ ဤစစ်ပွဲပြီးနောက် အလီ ﵁ အုပ်ချုပ်သည့် အီရတ်နိုင်ငံကူဖာမြို့အခြေစိုက်နိုင်ငံနှင့် မုအာဝေယာ ﵁ အုပ်ချုပ်သည့် ဆီးရီးယားနိုင်ငံ ဒမက်စကပ်မြို့အခြေစိုက်နိုင်ငံဟူ၍ နိုင်ငံနှစ်နိုင်ငံ ကွဲသွားခဲ့သည်။

ဆွစ်ဖ်ဖီးန်စစ်ပွဲတွင် ဆွေးနွေးညှိနှိုင်းပွဲပြုလုပ်ရန် လိုက်လျောခဲ့သော အလီ ﵁ ကို မကျေနပ်သော အုပ်စုတို့က ပုန်ကန်ကြသည်။ ထိုအုပ်စုကို ခါရေဂျီအုပ်စုဟုခေါ်သည်။ အလီ ﵁ သည် ဟိဂျ်ရီ (၃၈) ခုနှစ်အတွင်းမှာပင် နဟ်ရဝါးန်စစ်ပွဲ၌ ထိုသူပုန်အုပ်စုကို တိုက်ခိုက်

နှိမ်နင်းခဲ့သည်။ ထိုစစ်ပွဲတွင်ရှုံးနိမ့်ပြီး ထွက်ပြေးသွားသော ခါရေဂျီ အချို့သည် အလီ ﷺ ၊ မုအာဝေယာ ﷺ နှင့် အီဂျစ်ဒေသအုပ်ချုပ်ရေးမှူး အမ်ရ်ဗင်န်အားဆ် ﷺ တို့ကို လုပ်ကြံသတ်ဖြတ်ရန်ကြံစည်ခဲ့သည်။ ထိုကြံစည်မှုအတိုင်း လုပ်ကြံသတ်ဖြတ်ခဲ့သောကြောင့် ဟိဂျ်ရီ (၄၀) ခုနှစ်၊ ခရစ်နှစ် (၆၆၁) ခုနှစ်တွင် အလီ ﷺ ရှဟီးဒ်ဖြစ်ကွယ်လွန်ခဲ့ပြီး ကျန်ပုဂ္ဂိုလ်နှစ်ဦးမှာ လွတ်မြောက်ခဲ့သည်။ စတုတ္ထခလီဖာကြီးအလီ ﷺ ၏ အုပ်ချုပ်မှုသက်တမ်းမှာ (၅) နှစ်ခန့်ဖြစ်သည်။

## ပဥ္စမခလီဖာကြီး ဟစန် ﷺ (ဟိဂျ်ရီ ၄၀ - ၄၁)

အလီ ﷺ ကွယ်လွန်ပြီးနောက် နှစ်ရက်အကြာတွင် လူတို့က အလီ ﷺ ၏သားတော် ဟစန် ﷺ ကို ခေလာဖသ်ရာထူး အပ်နှင်းခဲ့ကြသည်။ အလီ ﷺ ၏စစ်တပ်မှ ခေါင်းဆောင်အချို့က ဟစန် ﷺ ကို မုအာဝေယာ ﷺ အား တိုက်ခိုက်နှိမ်နင်းရန် အကြံပေးခဲ့ ကြသည်။ သို့သော် ဟစန် ﷺ က မွတ်စ်လင်မ်အချင်းချင်း သွေးချောင်းစီးတိုက်ပွဲများဖြစ်ပွားရန် မလိုလားသောကြောင့် ထိုအကြံ ကို လက်မခံခဲ့ပေ။ သို့သာမက အငြင်းပွားမှုများကို အဆုံးသတ်ရန် အတွက် မုအာဝေယာ ﷺ နှင့် ငြိမ်းချမ်းရေးယူရန် ဆုံးဖြတ်ခဲ့သည်။ ထို့ကြောင့် ဟစန် ﷺ နှင့် မုအာဝေယာ ﷺ တို့အပြန်အလှန် ဆွေးနွေးမှုများပြုခဲ့ကြသည်။ ထို့နောက် အစ္စလာမ့်တရားတော်နှင့်အညီ အုပ်ချုပ်ရမည်ဟု ကတိကဝတ်ယူ၍ ဟစန် ﷺ က ခလီဖာရာထူးမှ နုတ်ထွက်ပေးကာ မုအာဝေယာ ﷺ ကို အာဏာအပြည့်အဝ လွှဲအပ်ခဲ့သည်။ ထို့ကြောင့် ဟိဂျ်ရီ (၄၁) ခုနှစ်တွင် အစ္စလာမ့်အင်ပါယာသည် ပြန်လည်စည်းလုံးညီညွတ်သွားခဲ့ပြီး

မုအာဝေယာ ﷺ သည် အစ္စလာမ့်အင်ပါယာ၏ အုပ်ချုပ်သူဖြစ်လာခဲ့သည်။

ဟစန် ﷺ သည် ညီတော်ဟိုစိုင်းန် ﷺ နှင့်အတူ မိသားစုဝင်များကို မဒီနာမြို့သို့ ခေါ်ဆောင်သွားပြီး မဒီနာမြို့တွင် ပြန်လည်အခြေချနေထိုင်ခဲ့သည်။ ဟိဂျ်ရီ (၄၉) ခုနှစ်၊ ခရစ်နှစ် (၆၆၉) ခုနှစ်တွင် ဟစန် ﷺ ကွယ်လွန်ခဲ့သည်။ ပဥ္စမခလီဖာကြီးဟစန် ﷺ ၏ အုပ်ချုပ်မှုသက်တမ်းမှာ (၆) လခန့်ဖြစ်သည်။

## ခလီဖာကြီးများခေတ် လုပ်ဆောင်ချက်များ

ဟိဂျ်ရီ (၁၁) ခုနှစ်မှ ဟိဂျ်ရီ (၄၀) ခုနှစ်အထိ ခလီဖာကြီးများခေတ်တွင် အစ္စလာမ့်အင်ပါယာသည် အာရေဗျကျွန်းဆွယ်မှ ဆီရီးယား၊ ပါလက်စတိုင်း၊ အီရတ်၊ အီရန်၊ အီဂျစ်၊ အာဖရိကမြောက်ပိုင်း၊ အာဖဂန်နစ္စတန်၊ အဇာဘိုင်ဂျန်၊ ကေားကေးဆပ်၊ ဆိုက်ပရပ်စ်ကျွန်း စသည့် ဒေသများအထိကျယ်ပြန့်သွားခဲ့ပြီဖြစ်သည်။ ထိုဒေသများတွင် နေထိုင်သူများစွာသည် အစ္စလာမ်သာသနာ၏ တရားမျှတမှုနှင့် စာရိတ္တမွန်များကို မျက်မြင်ကိုယ်တွေ့သိရှိပြီး အစ္စလာမ်သာသနာကို လက်ခံလာခဲ့ကြသည်။

အစ္စလာမ့်အင်ပါယာအတွင်းနေထိုင်သော မွတ်စ်လင်မ်မဟုတ်သူများကိုလည်း အစ္စလာမ့်ဥပဒေနှင့်အညီ အပြည့်အဝ ကာကွယ်စောင့်ရှောက်ပေးခဲ့သည်။ ပြည်နယ်များခွဲဝေထားသော ဗဟိုအုပ်ချုပ်ရေးစနစ်ကို ခိုင်မာစွာ တည်ဆောက်နိုင်ခဲ့ပြီဖြစ်သည်။ ပြည်သူလူထုအတွက် ရပိုင်ခွင့်များကို တိတိကျကျစတင် ပြဋ္ဌာန်းပေးနိုင်ခဲ့သည်။

တန်းတူညီမျှအခွင့်အရေးနှင့် တရားမျှတမှုအပေါ် အခြေခံသော အစ္စလာမ့်အုပ်ချုပ်ရေးစနစ်နှင့် အုပ်ချုပ်ခဲ့သည်။

အုပ်ချုပ်ရေး၊ စီးပွားရေး၊ ဘဏ္ဍာရေး၊ ပညာရေးနှင့် စစ်ရေးဆိုင်ရာစနစ်များသည် ခလီဖာကြီးများခေတ်တွင် အစ္စလာမ့် ဥပဒေနှင့်အညီ ခိုင်မာစွာ စနစ်တကျ ဖြစ်ထွန်းခဲ့ပြီဖြစ်သည်။ ခလီဖာကြီးများသည် အနေအထိုင်ရိုးရှင်းပြီး ဟိတ်ဟန်ကင်းခြင်း၊ အများပြည်သူအကျိုးကိုသာရှေးရှုပြီး ကိုယ်ကျိုးရှာမှုမရှိခြင်း၊ တရားမျှတမှုကို လက်ကိုင်ထားခြင်း၊ အများအတွက် အတုယူဖွယ်စာရိတ္တများနှင့် ပြည့်စုံခြင်းစသည့် အရည်အသွေးများရှိကြပြီး စတင်သန္ဓေတည်စ အစ္စလာမ့်အင်ပါယာကို အကောင်းဆုံး ဦးဆောင်မှုပေးခဲ့ကြသည်။

# အပိုင်း (၄)

# အိုမိုင်ယာအင်ပါယာ

## (ဟိဂျ်ရီ ၄၁ - ၁၃၂) (ခရစ်နှစ် ၆၆၂ - ၇၅၀)

**(အုပ်ချုပ်သည့်ကာလ - ၉၁ နှစ်)**

**မုအာဝေယာ ﷺ (ဟိဂျ်ရီ ၄၁ - ၆၀)**

အိုမိုင်ယာအင်ပါယာကို စတင်တည်ထောင်ခဲ့သူ မုအာဝေယာ ﵁ သည် တမန်တော်မြတ် ﷺ ၏ ဆွဟာဗာတစ်ဦးဖြစ်သည်။ ဒုတိယခလီဖာကြီး အုမရ် ﵁ က မုအာဝေယာ ﵁ ကို ဂျော်ဒန်ဒေသနှင့် ဒမက်စကပ်မြို့တို့၏ အုပ်ချုပ်ရေးမှူးအဖြစ်ခန့်အပ်ခဲ့သည်။ တတိယ ခလီဖာကြီး အွစ်မာန် ﵁ လက်ထက်တွင် ရှာမ်ဒေသတစ်ခုလုံး၏ အုပ်ချုပ်ရေးမှူးဖြစ်လာခဲ့သည်။ ဟစန် ﵁ သည် ခလီဖာရာထူးမှ နှုတ်ထွက်ပေးလိုက်သည့်အတွက် မုအာဝေယာ ﵁ သည် အစ္စလာမ့် အင်ပါယာတစ်ခုလုံး၏ အုပ်ချုပ်သူဖြစ်လာခဲ့သည်။

မုအာဝေယာ ﵁ လက်ထက်တွင် အစ္စလာမ့်စစ်တပ်သည် အာဖဂန်နစ္စတန်နိုင်ငံ ကဘူးလ်မြို့နှင့် ခိုရာစာန်ဒေသရှိ ဗိုခါရာနှင့် စမရ်ကန္ဒ်နယ်များအထိ အောင်နိုင်ခဲ့သည်။ မုအာဝေယာ ﵁ သည် သင်္ဘော (၁၇၀၀) ပါဝင်သော ရေတပ်ကို စနစ်တကျဖွဲ့စည်းစေခဲ့သည်။ ဆိုက်ပရပ်စ်ကျွန်း၊ မြေထဲပင်လယ်ရှိ ဂရိနိုင်ငံ ရိုဒက်စ်ကျွန်းနှင့် အခြား ကျွန်းများကို အောင်နိုင်ခဲ့သည်။ အာဖရိကတိုက်တွင်လည်း မော်ရိုကို နိုင်ငံ တန်ဂျာမြို့အထိ ဆက်လက်အောင်နိုင်ခဲ့သည်။

မုအာဝေယာ ﷺ သည် နိုင်ငံရေးကျွမ်းကျင်သူတစ်ဦးဖြစ်သည်။ အစ္စလာမ့်အင်ပါယာအတွင်းရှိ ပြည်နယ်တိုင်းအတွက် အရည်အချင်းရှိသောအုပ်ချုပ်ရေးမှူးများ ခန့်အပ်ထားသည်။ အင်ပါယာတစ်ခုလုံးကို ချိတ်ဆက်နိုင်သော စာတိုက်စနစ်ကို တည်ထောင်ခဲ့သည်။ မုအာဝေယာ ﷺ သည် မကွယ်လွန်မီ အချိန်ကတည်းက သားဖြစ်သူ ယဇီးဒ်ကို အရိုက်အရာဆက်ခံသူအဖြစ် ကြိုတင်ခန့်အပ်ပြီး ပြည်သူလူထုကို ယဇီးဒ်ထံ သစ္စာခံစေခဲ့သည်။

ဟိဂျ်ရီ (၆၀) ခုနှစ် ခရစ်နှစ် (၆၈၀) ခုနှစ်တွင် ဆီးရီးယားနိုင်ငံ ဒမက်စကပ်မြို့တော်၌ မုအာဝေယာ ﷺ ကွယ်လွန်ခဲ့သည်။

## ယဇီးဒ်ဗင်န်မိုအာဝေယာ (ဟိဂျ်ရီ ၆၀ - ၆၄)

မိုအာဝေယာ ﷺ ကွယ်လွန်ပြီးနောက် သားဖြစ်သူယဇီးဒ်သည် အိုမိုင်ယာအင်ပါယာ၏ အုပ်ချုပ်မှုအာဏာကို ဆက်ခံခဲ့သည်။ လူအများက ယဇီးဒ်ထံ သစ္စာခံကြသော်လည်း ဟေဂျားဇ်နယ်ရှိ နာမည်ကျော် ပုဂ္ဂိုလ်အချို့က ယဇီးဒ်သည် အုပ်ချုပ်မှုရာထူးနှင့် ထိုက်တန်သူ မဟုတ်သည့်အတွက် သစ္စာမခံကြသေးပေ။ သို့သော် အတင်းအကြပ် ပြုခြင်းကြောင့် အဗ္ဗဒွလ္လာဟ်ဗင်န်အဗ္ဗားစ်၊ အဗ္ဗဒွလ္လာဟ်ဗင်န်အုမရ် ﷺ စသည့်ဆွဟာဗာများလည်း ယဇီးဒ်၏ အုပ်ချုပ်မှုကို အသိအမှတ်ပြုခဲ့ရသည်။ သို့သော် အဗ္ဗဒွလ္လာဟ်ဗင်န်ဇိုဗိုင်းရ် ﷺ က သစ္စာခံရန်ငြင်းဆန်ပြီး မဒီနာမြို့မှ မက္ကာဟ်မြို့သို့ ထွက်ခွာသွားခဲ့သည်။

တမန်တော်မြတ် ﷺ ၏မြေးတော်ဖြစ်သူ ဟိုစိုင်းန် ﷺ သည်လည်း ယဇီးဒ်၏ အုပ်ချုပ်မှုကို လက်မခံခဲ့ပေ။ ထိုအချိန်တွင် အီရတ်နိုင်ငံမှ ဟိုစိုင်းန် ﷺ ကို သစ္စာခံမည်ဟူသော အကြောင်းကြားစာများရောက်ရှိလာခဲ့သည်။ ထို့ကြောင့် ဟိုစိုင်းန် ﷺ သည် မိသားစုဝင်

များနှင့် နောက်လိုက်အချို့ကို ခေါ်ဆောင်ပြီး အီရတ်နိုင်ငံသို့ ထွက်ခွာခဲ့သည်။ ဟိုစိုင်းန် ﷺ ၏ အုပ်စုမှာ အရေအတွက် (၈၀) မကျော်ပေ။ ထိုသတင်းကြောင့် ယဇီးဒ်၏ ကူဖာမြို့အုပ်ချုပ်ရေးမှူး အဗ္ဗဒွလ္လာဟ်ဗင်န်ဇေယားဒ်၏ စစ်တပ်က ဟိုစိုင်းန် ﷺ ၏အုပ်စုကို ဟန့်တားရန် ချီတက်လာခဲ့သည်။ ကရ်ဗလာအမည်ရလွင်ပြင်တစ်ခု တွင် နှစ်ဖက်အုပ်စုများ ထိပ်တိုက်တွေ့ခဲ့သည်။

ဟိုစိုင်းန် ﷺ က မွတ်စ်လင်မ်အချင်းချင်းသွေးချောင်းစီး တိုက်ပွဲများ မဖြစ်ပွားလို၍ ယဇီးဒ်နှင့် တိုက်ရိုက်တွေ့ခွင့်ပေးရန် (သို့) မဒီနာမြို့သို့ ပြန်ခွင့်ပေးရန် (သို့) နယ်စပ်ဒေသတွင် ဂျေဟားဒ် လုပ်ခွင့်ပေးရန် တောင်းဆိုခဲ့သည်။ သို့သော် စစ်တပ်ခေါင်းဆောင် အုမရ်ဗင်န်စအဒ်က တောင်းဆိုချက်ကိုလက်မခံဘဲ တိုက်ခိုက်ခဲ့သည်။ လူဦးရေ (၈၀) မပြည့်သော ဟိုစိုင်းန် ﷺ ၏အုပ်စုကို အင်အား လေးထောင်ရှိသော စစ်တပ်က တိုက်ခိုက်ခဲ့ခြင်းဖြစ်သည်။ အမျိုးသမီး များနှင့် ကလေးငယ်တစ်ဦးမှလွဲ၍ ဟိုစိုင်းန် ﷺ အပါအဝင် ကျန်အုပ်စု ဝင်အားလုံး ရှဟီးဒ်ဖြစ်ကျဆုံးခဲ့သည်။ ဤကရ်ဗလာအရေးသည် ဟိဂျ်ရီ (၆၁) ခုနှစ်၊ ခရစ်နှစ် (၆၈၀) ခုနှစ်တွင် ဖြစ်ပွားခဲ့သည်။

ဟိုစိုင်းန် ﷺ နှင့်မိသားစုဝင်များ မတရားသတ်ဖြတ်ခံရခြင်း ကြောင့် အစ္စလာမ့်အင်ပါယာတစ်ဝှမ်းလုံးတွင် ယဇီးဒ်ကို မုန်းတီးသူများ ပိုမိုများပြားသွားခဲ့သည်။ အထူးသဖြင့် ဟေဂျားဇ်နယ်သားများသည် ယဇီးဒ်ကို ယခင်ထက် ပိုမိုရွံရှာမုန်းတီးခဲ့ကြသည်။ ထို့ကြောင့် မဒီနာ မြို့သားများသည် ယဇီးဒ်ကို အတိအလင်းဆန့်ကျင်လာကြသည်။ ထိုအခါယဇီးဒ်က မဒီနာမြို့သို့ အင်အားတစ်သောင်းပါသော စစ်တပ်ကို စေလွှတ်လိုက်သည်။ ထိုစစ်တပ်သည် မဒီနာမြို့ကို အင်အားသုံး ဝင်ရောက်ပြီး တိုက်ခိုက်ဖျက်ဆီးခဲ့သည်။ တမန်တော်မြတ် ﷺ ၏

မြို့တော်သည် သတ်ဖြတ်မှု၊ လုယက်မှုနှင့် အဖျက်အမှောင့်မျိုးစုံကြောင့် သွေးစွန်းခဲ့ရသည်။

ထိုအချိန်တွင် ယဇီးဒ်၏အုပ်ချုပ်မှုကို လက်မခံသော အဗ္ဗဒွလ္လာဟ်ဗင်နိဇိုဗိုင်းရ် ﷺ သည် မက္ကာဟ်မြို့ကို အခြေစိုက်ကာ သီးသန့်နယ်မြေတစ်ခု တည်ထောင်အုပ်ချုပ်နေပြီဖြစ်သည်။ မဒီနာမြို့ကို ဖျက်ဆီးပြီးနောက် ယဇီးဒ်၏စစ်တပ်သည် အဗ္ဗဒွလ္လာဟ်ဗင်နိဇိုဗိုင်းရ် ﷺ ၏အုပ်စုကို ဆက်လက်တိုက်ခိုက်ရန်အတွက် မက္ကာဟ်မြို့သို့ ချီတက်လာခဲ့သည်။ ထိုစစ်တပ်သည် မက္ကာဟ်မြို့ကို ဝန်းရံပိတ်ဆို့ပြီး မြို့တွင်းသို့ ကျောက်မောင်းများနှင့် ပစ်ခတ်ကြသည်။ အဗ္ဗဒွလ္လာဟ်ဗင်နိဇိုဗိုင်း ﷺ နှင့် သူ၏ နောက်လိုက်တို့ကလည်း ရဲရင့်စွာ ပြန်လည်ခုခံတိုက်ခိုက်ခဲ့ကြသည်။ ထိုသို့မက္ကာဟ်မြို့ကို ဝန်းရံတိုက်ခိုက်နေစဉ်အတွင်း ဟိဂျ်ရီ (၆၄) ခုနှစ်၊ ခရစ်နှစ် (၆၃၈) ခုနှစ်တွင် ယဇီးဒ်ကွယ်လွန်သေဆုံးသွားသောကြောင့် သူ၏စစ်တပ်လည်း ဝန်းရံတိုက်ခိုက်မှုကို ရပ်ဆိုင်းပြီး ပြန်လည်ဆုတ်ခွာသွားခဲ့သည်။

## မိုအာဝေယာစာနီ (လပိုင်း)

ယဇီးဒ်သည် သားဖြစ်သူ မိုအာဝေယာစာနီအား မိမိ၏အရိုက်အရာကို ဆက်ခံစေခဲ့သည်။ ထိုပုဂ္ဂိုလ်သည် အရည်အချင်းရှိပြီး သာသနာရေးကိုင်းရှိုင်းသော လူငယ်တစ်ဦးဖြစ်သည်။ သို့သော် ရက်ပေါင်း (၄၀) ခန့်အုပ်ချုပ်ပြီး နာမကျန်းဖြစ်ကာ ကွယ်လွန်သွားခဲ့သည်။ သူသည် မည်သူတစ်ဦးယောက်ကိုမှ အရိုက်အရာဆက်ခံသူအဖြစ် မသတ်မှတ်ခဲ့ပေ။

ယဇီးဒ်ကွယ်လွန်သေဆုံးပြီးနောက် မက္ကာဟ်မြို့တွင် အခြေစိုက်ပြီး သီးသန့်နယ်မြေတည်ထောင်အုပ်ချုပ်နေသော အဗ္ဗဒွလ္လာဟ်ဗင်နိ

ဖိုဗိုင်း၏ ﷺ ထံ ဟေဂျာ့းဇ်နယ်သားများသစ္စာခံခဲ့ကြသည်။ ထို့အတူ အီရတ်၊ အီဂျစ်၊ ယီမင်နှင့် အီရန်နိုင်ငံတို့မှအုပ်ချုပ်ရေးမှူးများသည် လည်း အဗ္ဗဒွလ္လာဟ်ဗင်န်ဖိုဗိုင်း၏ ﷺ ၏ အုပ်ချုပ်မှုကို အသိအမှတ်ပြုပြီး သစ္စာခံခဲ့ကြသည်။ အိုမိုင်ယာမျိုးနွယ်များအခြေစိုက်ရာ ရှာမ်ဒေသတွင် သာ အိုမိုင်ယာတို့၏အာဏာစက် ကျန်ရှိတော့သည်။

## မရ်ဝါးန်ဗင်န်ဟကမ် (ဟိဂျ်ရီ ၆၄ - ၆၅)

ထိုအချိန်တွင် ရှာမ်ဒေသရှိ အိုမိုင်ယာမျိုးနွယ်ဝင်များက ဟိဂျ်ရီ (၆၃) ခုနှစ်၊ ခရစ်နှစ် (၆၈၄) ခုနှစ်တွင် မရ်ဝါးန်ဗင်န်ဟကမ်ကို ဘုရင် အဖြစ် ရွေးချယ်တင်မြှောက်ခဲ့ကြသည်။ မရ်ဝါးန်သည် အိုမိုင်ယာ မင်းဆက်ကို ထောက်ခံသူများနှင့် စစ်တပ်ဖွဲ့ကာ ရှာမ်ဒေသရှိ အဗ္ဗဒွလ္လာဟ်ဗင်န်ဖိုဗိုင်း၏ ﷺ ကို အားထောက်ခံအားပေးသူများအား တိုက်ခိုက်နှိမ်နင်းခဲ့သည်။ ထို့နောက် အီဂျစ်နယ်ကို ဆက်လက် တိုက်ခိုက်ပြီး အဗ္ဗဒွလ္လာဟ်ဗင်န်ဖိုဗိုင်း၏ ﷺ ခန့်အပ်ထားသော အုပ်ချုပ်ရေးမှူးကို ဖြုတ်ချခဲ့သည်။ ဤသို့ဖြင့် ရှာမ်နှင့် အီဂျစ်ဒေသများ တွင် အိုမိုင်ယာတို့၏အာဏာစက် ပြန်လည်အသက်ဝင်လာခဲ့သည်။

မရ်ဝါးန်သည် မကွယ်လွန်မီအချိန်တွင် သားနှစ်ဦးဖြစ်သော အဗ္ဗဒွလ်မလိက်နှင့် အဗ္ဗဒွလ်အဇီးဇ်တို့ကို အရိုက်အရာဆက်ခံသူများ အဖြစ်ရွေးချယ်ခဲ့သည်။ ထို့နောက် ဟိဂျ်ရီ (၆၅) ခုနှစ် ခရစ်နှစ် (၆၈၅) ခုနှစ်တွင် မရ်ဝါးန်ဗင်န်ဟကမ်ကွယ်လွန်ခဲ့သည်။

**အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန် (ဟိဂျ်ရီ ၆၅ - ၈၆)**

အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန်သည် ဖခင်ဖြစ်သူ မရ်ဝါးန်၏ ခန့်အပ်မှုကြောင့် ဘုရင်ဖြစ်လာခဲ့သည်။ အဗ္ဗဒွလ်မလိက်သည် သာသနာ့ ပညာရှင်တစ်ဦးဖြစ်ပြီး ကုရ်အာန်ကျမ်းမြတ်ကို အာဂုံဆောင်ထားသော ဟာဖိဇ်တစ်ဦးလည်းဖြစ်သည်။ သူဘုရင်ဖြစ်ချိန်တွင် ညီဖြစ်သူ အဗ္ဗဒွလ် အဇီးဇ်သည် အီဂျစ်ပြည်နယ်အုပ်ချုပ်ရေးမှူးဖြစ်ပြီး အီဂျစ်နိုင်ငံကို ဖွံ့ဖြိုး တိုးတက်အောင် စီမံအုပ်ချုပ်နေပြီဖြစ်သည်။ အဗ္ဗဒွလ်မလိက်ဘုရင် သည် ပြည်တွင်းရေးပြဿနာများကို ဦးစွာဖြေရှင်းခဲ့သည်။ အတိုက်အခံ များကို နှိမ်နင်းပြီး ငြိမ်ဝပ်ပိပြားအောင်အုပ်ချုပ်ခဲ့သည်။

ရှာမ်နှင့် အီဂျစ်နယ်များကို ကောင်းစွာထိန်းချုပ်နိုင်ပြီးနောက် မက္ကာဟ်မြို့အခြေစိုက် အဗ္ဗဒွလ္လာဟ်ဗင်ဇိုဗိုင်းရ် ﷺ ၏ အုပ်ချုပ်မှု အောက်တွင်ရှိနေသည့် ပြည်နယ်များကို သိမ်းယူရန် ပြင်ဆင်ခဲ့သည်။ ဟိဂျ်ရီ (၇၁) ခုနှစ်တွင် အီရတ်နိုင်ငံရှိ အဗ္ဗဒွလ္လာဟ်ဗင်န်ဇိုဗိုင်းရ် ﷺ ၏ သစ္စာခံစစ်တပ်များကို တိုက်ခိုက်ပြီး အီရတ်နိုင်ငံကို သိမ်းယူခဲ့သည်။ ထို့နောက် ဟဂ်ျဂျားဂျ်ဗင်န်ယူစွဖ် ခေါင်းဆောင်သော စစ်တပ် တစ်တပ်ကို အဗ္ဗဒွလ္လာဟ်ဗင်န်ဇိုဗိုင်းရ် ﷺ အခြေစိုက်သော မက္ကာဟ်မြို့ သို့ စေလွှတ်ခဲ့သည်။ ဟဂ်ျဂျားဂျ်ခေါင်းဆောင်သော အိုမိုင်ယာစစ်တပ် က မက္ကာဟ်မြို့ကို ဝန်းရံပိတ်ဆို့တိုက်ခိုက်ခဲ့သည်။ အဗ္ဗဒွလ္လာဟ်ဗင်န် ဇိုဗိုင်းရ် ﷺ တို့လည်း ငါးလတိုင်တိုင် ပြန်လည်ခုခံတိုက်ခိုက်ခဲ့သည်။ ဟိဂျ်ရီ (၇၃) ခုနှစ် ခရစ်နှစ် (၆၉၂) ခုနှစ်တွင် အဗ္ဗဒွလ္လာဟ်ဗင်န်ဇိုဗိုင်းရ် ﷺ ရှဟီးဒ်ဖြစ် ကျဆုံးခဲ့သည်။ ထို့နောက် အာဖရိကဒေသရှိ ပုန်ကန် ထကြွသော ဘာဘာရီမျိုးနွယ်စုများကို ဆက်လက်နှိမ်နင်းပြီးနောက် အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန်သည် အစ္စလာမ့်အင်ပါယာတစ်ခုလုံး၏ ဘုရင်ဖြစ်လာခဲ့သည်။ ထို့ကြောင့် အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန်ကို

အိုမိုင်ယာအင်ပါယာအား ဒုတိယအကြိမ်ပြန်လည်တည်ထောင်သူဟု ခေါ်ဝေါ်ကြသည်။

အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန်သည် အရဗီဘာသာစကားကို ရုံးသုံးဘာသာစကားအဖြစ်သတ်မှတ်နိုင်ရန် စတင်လုပ်ဆောင်ခဲ့သည်။ ထို့အပြင် ငွေကြေးစနစ်ခိုင်မာစေရန်အတွက် အရဗီဒင်္ဂါးများကို ကျယ်ကျယ်ပြန့်ပြန့်ထုတ်ဝေဖြန့်ချိခဲ့သည်။ ဂျေရုစလင်မြို့ရှိ သမိုင်းဝင် အစ္စလာမ့်ဗိသုကာလက်ရာတစ်ခုဖြစ်သည့် ရွှေရောင်အမိုးခုံးဗလီကို တည်ဆောက်ခဲ့သည်။ ပြည်နယ်အသီးသီးမှ အကျွမ်းကျင်ဆုံးဆောက်လုပ်ရေးဗိသုကာပညာရှင်များနှင့် လုပ်သားများကို ရွေးချယ်ပြီး (၇) နှစ်ခန့် အချိန်ယူဆောက်လုပ်ခဲ့ခြင်းဖြစ်သည်။ မကွယ်လွန်မီအချိန်တွင် သားနှစ်ဦးဖြစ်သည့် ဝလီးဒ်နှင့် ဆိုလိုင်မာန်တို့ကို အရိုက်အရာဆက်ခံသူများအဖြစ် သတ်မှတ်ခဲ့သည်။ ဟိဂျ်ရီ (၈၆) ခုနှစ်၊ ခရစ်နှစ် (၇၀၅) ခုနှစ်တွင် အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန်ကွယ်လွန်ခဲ့သည်။

## ဝလီးဒ်ဗင်န်အဗ္ဗဒွလ်မလိက် (ဟိဂျ်ရီ ၈၆ - ၉၆)

အဗ္ဗဒွလ်မလိက်ဗင်န်မရ်ဝါးန် ကွယ်လွန်ပြီးနောက် သားဖြစ်သူ ဝလီးဒ်ဗင်န်အဗ္ဗဒွလ်မလိက် ဘုရင်ဖြစ်လာခဲ့သည်။ ဝလီးဒ်လက်ထက်တွင် အစ္စလာမ့်အင်ပါယာသည် အရှေ့ဘက် တရုတ်နယ်စပ်မှ အနောက်ဘက် အတ္တလန္တိတ်သမုဒ္ဒရာအထိ ကျယ်ဝန်းခဲ့သည်။ နာမည်ကျော်စစ်ဗိုလ်ချုပ် ကိုသိုင်ဗာဗင်န်မွတ်စ်လင်မ် ၏စစ်တပ်သည် ဗဟိုအာရှဒေသရှိ ဗိုခါရာနှင့် စမရ်ကာဒ်နယ်များကို အောင်နိုင်ခဲ့သည်။ လူငယ်စစ်ဗိုလ်ချုပ် မုဟမ္မဒ်ဗင်န်ကာစင်မ်၏စစ်တပ်သည် ကရာချီမြို့၊ ဆင့်ဒ်ပြည်နယ်နှင့် ပန်ဂျပ်ပြည်နယ် မွလ်သာန်မြို့အထိ ချီတက်အောင်နိုင်ခဲ့သည်။ အာဖရိကဒေသအုပ်ချုပ်ရေးမှူး

မူဆာဗင်နုစိုင်ရ်၏ ကြီးကြပ်မှုနှင့် စစ်ဗိုလ်ချုပ် သွာရိက်ဗင်နို ဖေယာဒ်၏ ဦးဆောင်မှုအောက်တွင် စပိန်ဒေသကိုလည်း အောင်နိုင်ခဲ့သည်။

နှစ်ပေါင်း (၂၀) ခန့်ကြာရှည်ခဲ့သော ဝလီးဒ်၏ အုပ်ချုပ်မှုကာလသည် အိုမိုင်ယာအင်ပါယာ၏ အတိုးတက်ဆုံးကာလများထဲတွင် ပါဝင်သည်။ ဆောက်လုပ်ရေးဗိသုကာပညာရပ် တိုးတက်ခဲ့သည်။ မဒီနာမြို့ရှိ မက်စ်ဂျေဒေနဗဝီနှင့် ဒမက်စကပ်မြို့ရှိ အိုမိုင်ယာဝတ်ကျောင်းတော်တို့ကို တိုးချဲ့ဆောက်လုပ်ခဲ့သည်။ ပြည်နယ်အသီးသီးတွင် စာသင်ကျောင်းများ အလုံအလောက် တည်ဆောက်စေခဲ့သည်။ နူနာရောဂါသည်များအတွက် သီးသန့်ဆေးကုသဆောင်များ ဆောက်လုပ်ပေးခဲ့သည်။ နွမ်းပါးသူတို့အတွက် နိုင်ငံတော်ဘဏ္ဍာတိုက်မှ စနစ်တကျ ထောက်ပံ့ပေးခဲ့သည်။ ဖခင်အဗ္ဗဒွလ်မလိက်လက်ထက်တွင် စတင်ခဲ့သော အရဗီဘာသာစကားကို ရုံးသုံးဘာသာစကားအဖြစ် သတ်မှတ်အသုံးပြုရေးအစီအစဉ်ကို ဝလီးဒ်လက်ထက်တွင် အပြီးသတ် အကောင်အထည်ဖော်နိုင်ခဲ့သည်။

ဘုရင်အဗ္ဗဒွလ်မလိက်၏ ကြိုတင်ခန့်အပ်မှုအရ ဝလီးဒ်ကွယ်လွန်ပါက ညီဖြစ်သူဆိုလိုင်မာန်က ဘုရင်အဖြစ် ဆက်ခံရမည်ဖြစ်သည်။ သို့သော်ဝလီးဒ်က ညီဖြစ်သူအစား သားဖြစ်သူကို ထီးနန်းအမွေပေးချင်သောကြောင့် မကွယ်လွန်မီ သားဖြစ်သူကို အရိုက်အရာဆက်ခံသူအဖြစ် တင်မြှောက်ရန် ကြိုးစားခဲ့သည်။ သို့သော် ထိုကြိုးစားမှု မအောင်မြင်ခင် ဟိဂျ်ရီ (၉၆) ခုနှစ်၊ ခရစ်နှစ် (၇၁၅) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

## ဆိုလိုင်မားန်ဗင်န်အဗ္ဗဒွလ်မလိက် (ဟိဂျ်ရီ ၉၆ - ၉၉)

ဟိဂျ်ရီ (၉၆) ခုနှစ် ခရစ်နှစ် (၇၁၅) ခုနှစ်တွင် ဘုရင်ဝလီးဒ်ဗင်န်အဗ္ဗဒွလ်မလိက် ကွယ်လွန်ပြီးနောက် ညီဖြစ်သူ ဆိုလိုင်မားန်ဗင်န်အဗ္ဗဒွလ်မလိက် ဘုရင်ဖြစ်လာခဲ့သည်။ ဘုရင်ဝလီးဒ်က သားဖြစ်သူ အဗ္ဗဒွလ်အဇီးဇ်ကို ဆက်ခံသူအဖြစ် တင်မြှောက်ရန် ကြိုးစားရာတွင် ကူညီထောက်ခံခဲ့သူများကို ဘုရင်ဆိုလိုင်မားန်က အရေးယူခဲ့သည်။ ဘာဇင်တိုင်းအင်ပါယာမြို့တော် ကွန်စတန်တီနိုပယ်မြို့ကို တိုက်ခိုက်ရန်အတွက် ညီဖြစ်သူ မက်စ်လမဟ်ဦးဆောင်သည့် စစ်တပ်ကို စေလွှတ်ခဲ့သည်။ ထို့နောက် ကိုယ်တိုင်ဦးဆောင်ပြီး မက်စ်လမဟ်၏စစ်တပ်ကို စစ်ကူပေးရန် ချီတက်လာခဲ့သည်။

သို့သော် လမ်းခရီးတွင် နာမကျန်းဖြစ်ခဲ့သည်။ နာမကျန်း ဖြစ်ချိန်တွင် တူဖြစ်သူ အုမရ်ဗင်န်အဗ္ဗဒွလ်အဇီးဇ်နှင့် ယဇီးဒ်တို့ကို အရိုက်အရာဆက်ခံသူများအဖြစ် ခန့်အပ်ခဲ့သည်။ ထို့နောက် ဟိဂျ်ရီ (၉၉) ခုနှစ်၊ ခရစ်နှစ် (၇၁၇) ခုနှစ်တွင် ဘုရင်ဆိုလိုင်မားန် ကွယ်လွန်ခဲ့သည်။

## အုမရ်ဗင်န်အဗ္ဗဒွလ်အဇီးဇ် (ဟိဂျ်ရီ ၉၉ - ၁၀၁)

ဘုရင်ဆိုလိုင်မားန်၏ ခန့်အပ်မှုကြောင့် တူဖြစ်သူ အုမရ်ဗင်န် အဗ္ဗဒွလ်အဇီးဇ်သည် အိုမိုင်ယာအင်ပါယာ၏ အုပ်ချုပ်သူ ဖြစ်လာခဲ့သည်။ ကိုယ်ကျင့်စာရိတ္တကောင်းမွန်ပြီး သာသနာ့ရှင်တစ်ဦး လည်းဖြစ်သည်။ ဒုတိယခလီဖာကြီး အုမရ် ﵁ နှင့် ဆွေမျိုး တော်စပ်သူဖြစ်သည်။ အိုမိုင်ယာမင်းဆက်တွင် အကောင်းဆုံး အုပ်ချုပ် သူတစ်ဦးအဖြစ် သတ်မှတ်ခံထားရသည်။ နေထိုင်မှုနှင့် အုပ်ချုပ်ရေး

စနစ်တွင် ဒုတိယခလီဖာကြီး အုမရ် ﷺ ၏ လမ်းစဉ်ကို အတုယူ ကျင့်သုံးခဲ့သည်။

အုမရ်ဗင်န်အဗ္ဗဒွလ်အဇီးဇ်သည် ပြည်သူများကို အနိုင်အထက် ပြုပြီး သမာသမတ်ကျစွာ အုပ်ချုပ်ခြင်းမရှိသည့် အုပ်ချုပ်ရေးမှူးများကို ဖြုတ်ချခဲ့သည်။ ယခင်ဘုရင်များလက်ထက်တွင် ကောက်ခံခဲ့သည့် မတရားသည့်အခွန်အခများကို ပယ်ဖျက်ပေးခဲ့သည်။ မတရားသိမ်းယူ ထားသည့် မြေများကိုလည်း မူလပိုင်ဆိုင်သူများထံ ပြန်လည် အပ်နှံခဲ့သည်။ အမှုကြီးများတွင် ဆုံးဖြတ်ချက်အမှားမဖြစ်စေရန် ခလီဖာ၏ သုံးသပ်အတည်ပြုချက်ရယူစေခဲ့သည်။ ထို့ကြောင့် နိုင်ငံ တစ်ဝှမ်း တရားမျှတမှုအပြည့်နှင့် တည်ငြိမ်အေးချမ်းပြီး ပြည်သူအများ လုံခြုံခဲ့ရသည်။

တန်းတူညီမျှအုပ်ချုပ်သည့်စနစ်ကြောင့် မွတ်စ်လင်မ်မဟုတ်သူ အများအပြား အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့ကြသည်။ ခလီဖာကြီးအုမရ်ဗင်န်အဗ္ဗဒွလ်အဇီးဇ်သည် ဟိဂျ်ရီ (၁၀၁) ခုနှစ်၊ ခရစ်နှစ် (၇၂၀) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

## အိုမိုင်ယာအင်ပါယာအင်အားယုတ်လျော့ကျဆင်းလာခြင်း

အုမရ်ဗင်န်အဗ္ဗဒွလ်အဇီးဇ် ကွယ်လွန်ပြီးနောက် အိုမိုင်ယာ အင်ပါယာသည် တဖြည်းဖြည်း အင်အားကျဆင်းလာခဲ့သည်။ နောက်ပိုင်းအုပ်ချုပ်သူများ၏ အရည်အချင်းလျော့နည်းခြင်း၊ စည်းစိမ် ယစ်မူးခြင်း၊ အချင်းချင်းစည်းလုံးမှုပြိုကွဲခြင်း စသည်တို့ကြောင့် အင်အားကြီးအိုမိုင်ယာအင်ပါယာ၏ အရှိန်အဝါများ ယုတ်လျော့လာရ ခြင်းဖြစ်သည်။ နောက်ပိုင်းနှစ်သုံးဆယ်ကာလအတွင်း ဘုရင် (၅) ဦး အုပ်ချုပ်ခဲ့သည်။ ထိုငါးဦးထဲတွင် ဟေရှားမ်ဗင်န်အဗ္ဗဒွလ်မလိက်

တစ်ဦးသာ အရည်အချင်းရှိသောဘုရင်တစ်ဦးဖြစ်ပြီး အခြေအနေ ယိုယွင်းမှုများကို ထိန်းသိမ်းပြုပြင်နိုင်ခဲ့သည်။

## ယဇီးဒ်စာနီဗင်န်အဗ္ဗဒ္ဒလ်မလိက် (ဟိဂျ်ရီ၁၀၁ - ၁၀၅)

အုမရ်ဗင်န်အဗ္ဗဒ္ဒလ်အဇီးဇ်ကွယ်လွန်ပြီးနောက် ယဇီးဒ်စာနီ အုပ်ချုပ်ရန် ဘုရင်ဆိုလိုင်မားန်က ကြိုတင်ခန့်အပ်ထားခဲ့သည့်အတွက် ယဇီးဒ်စာနီသည် အိုမိုင်ယာအင်ပါယာ၏ဘုရင်ဖြစ်လာခဲ့သည်။ သူသည် အိုမိုင်ယာမင်းဆက်ဘုရင်များအနက် အညံ့ဖျင်းဆုံးနှင့် အရည်အချင်း အနည်းဆုံးဖြစ်သည်။ စည်းစိမ်ယစ်မူးလွန်းသူတစ်ဦးလည်းဖြစ်သည်။ အုပ်ချုပ်ပုံညံ့ဖျင်းခြင်းကြောင့် များစွာသောပြည်တွင်းရေး ပြဿနာများ ပေါ်ပေါက်ခဲ့သည်။ ဟိဂျ်ရီ (၁၀၅) ခုနှစ်၊ ခရစ်နှစ် (၇၂၄) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

## ဟေရှားမ်ဗင်န်အဗ္ဗဒ္ဒလ်မလိက် (ဟိဂျ်ရီ ၁၀၅ - ၁၂၅)

ယဇီးဒ်စာနီကွယ်လွန်ပြီးနောက် ညီဖြစ်သူဟေရှားမ် ဘုရင် ဖြစ်လာခဲ့သည်။ ယဇီးဒ်လက်ထက်တွင် ယိုယွင်းပျက်စီးခဲ့သော အခြေ အနေများကို ပြုပြင်ထိန်းသိမ်းနိုင်ခဲ့သည်။ အိုမိုင်ယာအင်ပါယာ ပြိုကွဲ ပျက်စီးမှုမဖြစ်စေရန် ကာကွယ်ခဲ့သည်။ ရောမအင်ပါယာပိုင် နယ်မြေ များဖြစ်သည့် ကိုင်စာရီယာ၊ ကွန်ယာ၊ ခရက်ရှ်နာစသည့် ဒေသများကို အောင်နိုင်ခဲ့သည်။ ပြည်တွင်းရေးမတည်မငြိမ်ဖြစ်မှုများကို အခွင့် ကောင်းယူပြီး ပုန်ကန်ထကြွသော တူရကီမျိုးနွယ်စုများကို နှိမ်နင်းခဲ့ သည်။ ထို့အတူအာဖရိကမြောက်ပိုင်းတွင် ပုန်ကန်ထကြွသော ဘာဘရီ မျိုးနွယ်စုများကိုလည်း နှိမ်နင်းနိုင်ခဲ့သည်။ ထို့ကြောင့် ဟေရှားမ် လက်ထက်တွင် အိုမိုင်ယာအင်ပါယာသည် ပြန်လည်တည်ငြိမ်အေးချမ်း

ခဲ့သည်။ ထို့အပြင် ဘာဇင်တိုင်းအင်ပါယာပိုင်နယ်မြေအချို့နှင့် ပြင်သစ် တောင်ပိုင်းရှိနယ်မြေအချို့ကိုလည်း အောင်နိုင်ခဲ့သည်။

ဟေရှားမ်ဗင်န်အဗ္ဗဒွလ်မလိက်သည် ပညာရှင်များကို ပံ့ပိုး ကူညီပြီး ဘာသာပြန်လုပ်ငန်းကို ကျယ်ကျယ်ပြန့်ပြန့် ဆောင်ရွက်စေခဲ့ သည်။ စိုက်ပျိုးမြေများကိုတိုးချဲ့ပြီး ရေသွင်းစိုက်ပျိုးရေးအတွက် တူးမြောင်းများ တူးဖော်ပေးခဲ့သည်။ မက္ကာဟ်မြို့သို့ ဖောက်လုပ်ထား သည့် လမ်းမများတလျှောက် ရေတွင်းရေကန်များတူးဖော်ပေးခဲ့သည်။ ဟိဂျ်ရီ (၁၂၅) ခုနှစ်၊ ခရစ်နှစ် (၇၄၃) ခုနှစ်တွင် ဟေရှားမ်ဘုရင် ကွယ်လွန်ခဲ့သည်။

## အိုမိုင်ယာအင်ပါယာပျက်သုဉ်းခြင်း

ဘုရင်ဟေရှားမ်က အိုမိုင်ယာအင်ပါယာ၏ အရှိန်အဝါနှင့် ဩဇာ အာဏာကို ထိန်းသိမ်းပေးခဲ့သည်။ သို့သော် ဟေရှားမ်ကွယ်လွန်ပြီး နောက် အိုမိုင်ယာနွယ်ဝင်အချင်းချင်းကြား စည်းလုံးမှုပြိုကွဲပြီး တိုင်းရေး ပြည်ရေးအခြေအနေ ဆိုးရွားလာခဲ့သည်။ အိုမိုင်ယာအင်ပါယာ မပျက်သုဉ်းမီ နောက်ဆုံး (၇) နှစ်အတွင်း ဘုရင်လေးဦးအုပ်ချုပ်ခဲ့ သည်။

## ဝလီးဒ်စာနီဗင်န်ယဇီးဒ် (ဟိဂျ်ရီ ၁၂၅ - ၁၂၆)

ဘုရင်ဟေရှားမ်ကွယ်လွန်ပြီးနောက် ဟိဂျ်ရီ (၁၂၅) ခုနှစ်၊ ခရစ်နှစ် (၇၄၃) ခုနှစ်တွင် တူဖြစ်သူဝလီးဒ် ဘုရင်ဖြစ်လာခဲ့သည်။ အုပ်ချုပ်ရေးကဏ္ဍကိုစိတ်မဝင်စားဘဲ အပျော်အပါးလိုက်စားသော ဘုရင်တစ်ဦးဖြစ်သည်။ ပြည်သူအများကရွံရှားမုန်းတီးကြပြီး နောက်ဆုံး တွင် အိုမိုင်ယာမျိုးနွယ်အကြီးအကဲများနှင့် စစ်ဗိုလ်ချုပ်ကြီးများကပါ

ဘုရင်ဝလီးဒ်ကို ဖြုတ်ချရန် ဆုံးဖြတ်ခဲ့ကြရသည်။ ထို့ကြောင့် ဟိဂျ်ရီ (၁၂၆) ခုနှစ်တွင် ဝလီးဒ်အသတ်ခံခဲ့ရသည်။

**ယဇီးဒ်ဗင်န်ဝလီးဒ် (လအချို့)**

အမှန်တရားကိုမြတ်နိုးပြီး မတရားမှုကိုရွံရှာသော သမာသမတ်ကျသည့် ဘုရင်တစ်ပါးဖြစ်သည်။ ဘုရင်ဝလီးဒ်စာနီ အသတ်ခံရပြီးနောက် ဟိဂျ်ရီ (၁၂၆) ခုနှစ်တွင် ဘုရင်ဖြစ်လာခဲ့သည်။ အစ္စလာမ်သာသနာကို ခိုင်မာစွာဆုပ်ကိုင်ထားရန် ပြည်သူလူထုကိုလမ်းညွှန်ပြီး အုပ်ချုပ်ရေးမှူးများအား သမာသမတ်ကျစွာ အုပ်ချုပ်ကြရန် ညွှန်ကြားခဲ့သည်။ သို့သော် သူသည် လအနည်းငယ်သာအုပ်ချုပ်လိုက်ရပြီး ဟိဂျ်ရီ (၁၂၆) ခုနှစ်အတွင်းမှာပင် ကပ်ရောဂါကြောင့် ကွယ်လွန်သွားခဲ့သည်။ မကွယ်လွန်မီ ညီဖြစ်သူ အိဗ်ရာဟီးမ်ကို ဘုရင်အဖြစ်ခန့်အပ်ခဲ့သည်။

**အိဗ်ရာဟီးမ်ဗင်န်ဝလီးဒ် (ဟိဂျ်ရီ ၁၂၆ - ၁၂၇)**

ဘုရင်ယဇီးဒ်ကွယ်လွန်ပြီးနောက် ညီဖြစ်သူအိဗ်ရာဟီးမ် ဘုရင်ဖြစ်လာခဲ့သည်။ အိဗ်ရာဟီးမ် ဘုရင်ဖြစ်ချိန်တွင် အဇာဘိုင်ဂျန်နှင့် အာမေနီးယားနိုင်ငံတို့၏ အုပ်ချုပ်ရေးမှူးဖြစ်သည့် မရ်ဝါးန်ဗင်န်မုဟမ္မဒ်သည် မိမိ၏စစ်တပ်နှင့်အတူ နန်းစိုက်မြို့တော်ဒမက်စကပ်သို့ ချီတက်လာခဲ့သည်။ ဒမက်စကပ်မြို့အနီးတွင် ဘုရင်အိဗ်ရာဟီးမ်၏ စစ်တပ်နှင့် တိုက်ပွဲဖြစ်ပွားပြီး မရ်ဝါးန်၏စစ်တပ်အနိုင်ရခဲ့သည်။ ဘုရင်အိဗ်ရာဟီးမ်လည်း ထွက်ပြေးသွားခဲ့ပြီး အနိုင်ရသူမရ်ဝါးန် ဘုရင်ဖြစ်လာခဲ့သည်။ ထို့နောက် ထွက်ပြေးသွားသော ဘုရင်ဟောင်း အိဗ်ရာဟီးမ်သည် ဘုရင်မရ်ဝါးန်ထံ သစ္စာခံခဲ့သည်။

**မရ်ဝါးန်စာနီ (ဟိဂျ်ရီ ၁၂၇ - ၁၃၂)**

ဘုရင်အိဗ်ရာဟီးမ်ကို ဖြုတ်ချပြီး ဟိဂျ်ရီ (၁၂၇) ခုနှစ်တွင် မရ်ဝါးန်စာနီ ဘုရင်ဖြစ်လာခဲ့သည်။ ယခင်ဘုရင်များလက်ထက်က ပုန်ကန်ထကြွသူများစွာကို နှိမ်နင်းရာတွင် ဦးဆောင်ခဲ့သော မရ်ဝါးန်စာနီသည် ရဲရင့်ပြီး စစ်မှုရေးရာကျွမ်းကျင်သူတစ်ဦးဖြစ်သည်။ အင်ပါယာအနှံ့ဖြစ်ပွားနေသော ပုန်ကန်မှုများကို နှိမ်နင်းရန် ကြိုးပမ်းခဲ့သည်။ အုပ်ချုပ်မှုသက်တမ်း၏ ပထမပိုင်းကာလတွင် ပုန်ကန်မှုများကို အောင်မြင်စွာ နှိမ်နင်းနိုင်ခဲ့သည်။ ဟသ္ဝရမောသ်၊ ယီမင်၊ ဟိမ်ဆ်၊ ဒမက်စကပ်နှင့် ပါလက်စတိုင်းဒေသတို့ရှိ ပုန်ကန်မှုများကို နှိမ်နင်းနိုင်ခဲ့သည်။

ဘုရင်မရ်ဝါးန်စာနီသည် နယ်ပယ်အသီးသီးရှိ ပုန်ကန်မှုများကို အာရုံစိုက်နှိမ်နင်းနေခဲ့သည်။ ဤအခြေအနေကိုအခွင့်ကောင်းယူပြီး အဗ္ဗာစီယာမျိုးနွယ်တို့၏ လျှို့ဝှက်တော်လှန်ပုန်ကန်ရေးလှုပ်ရှားမှု အားကောင်းလာခဲ့သည်။ ထိုအချိန်တွင် အဗ္ဗာစီယာနွယ်ဝင်များသည် ဂျော်ဒန်နိုင်ငံ ဟာမီမဟ်ရွာတွင် အခြေချနေထိုင်ကြပြီး ခေါင်းဆောင်မှာ အိဗ်ရာဟီးမ်ဖြစ်သည်။ အဗ္ဗာစီယာထောက်ခံသူ အဗူမွတ်စ်လင်မ်ခိုရာစာနီသည် ခိုရာစန်ဒေသတွင် အင်အားအတော်အသင့် စုမိနေပြီဖြစ်သည်။ ထိုလှုပ်ရှားမှုကို ဘုရင်မရ်ဝါးန်သိရှိသွားသည့်အခါ အဗ္ဗာစီယာခေါင်းဆောင် အိဗ်ရာဟီးမ်ကို ဖမ်းဆီးပြီး သေဒဏ်ပေးခဲ့သည်။

သို့သော် အဗ္ဗာစီယာတို့၏တော်လှန်ရေးလှုပ်ရှားမှု မရပ်တန့်သွားခဲ့ပါ။ ဖမ်းဆီးသတ်ဖြတ်ခံရသူ ခေါင်းဆောင်အိဗ်ရာဟီးမ်နေရာတွင် ညီဖြစ်သူအဗ္ဗလ်အဗ္ဗားစ်စဖ်ဖားဟ်က ဆက်ခံသည်။ မဒ်ယန်နယ်သားများကလည်း အဗ္ဗာစီယာတို့ကိုထောက်ခံကြသောကြောင့် အဗ္ဗာစီယာတို့ ပိုမိုအားကောင်းလာကြသည်။ အိုမိုင်ယာအင်ပါယာ၏

ခိုရာစားန်ပြည်နယ်အုပ်ချုပ်ရေးမှူး နဆ္ဗ်ရ်ဗင်နဲစိုက်ယားရ်က ခိုရာစားန် ပြည်နယ်ကို ခြေကုပ်ယူလှုပ်ရှားနေသည့် အဗ္ဗာစီယာထောက်ခံသူ အဗူမွတ်စ်လင်မ်ကို နှိမ်နင်းရန်အတွက် အိုမိုင်ယာဘုရင်ထံ စစ်ကူ တောင်းခဲ့သည်။ သို့သော် အခြားပုန်ကန်သူများကို နှိမ်နင်းနေရ သောကြောင့် ဘုရင်မရ်ဝါးန်က စစ်ကူမပို့နိုင်ခဲ့ပါ။

ထိုအခါ အဗူမွတ်စ်လင်မ်ခိုရာစာနီက ခိုရာစားန်ပြည်နယ် မရ်ဝ်မြို့ကို သိမ်းပိုက်ပြီး အဗ္ဗာစီယာတို့၏ အမှတ်လက္ခဏာဖြစ်သည့် အနက်ရောင်အလံများ လွှင့်ထူခဲ့သည်။ အိုမိုင်ယာအင်ပါယာ၏ ခိုရာစားန်ပြည်နယ်အုပ်ချုပ်ရေးမှူး နဆ္ဗ်ရ်ဗင်စိုက်ယားရ် ထွက်ပြေး သွားသည့်အခါ အဗူမွတ်စ်လင်မ်က ခိုခါစားန်ပြည်နယ်တစ်ခုလုံးကို သိမ်းပိုက်လိုက်သည်။ ထို့နောက် အဗ္ဗာစီယာတပ်များ ဆက်လက် ချီတက်လာပြီး အီရတ်နိုင်ငံ ကူဖာမြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။

အဗ္ဗာစီယာတပ်များ ကူဖာမြို့ကို သိမ်းပိုက်လိုက်ပြီးနောက် အိုမိုင်ယာဘုရင်မရ်ဝါးန်က မိမိစစ်တပ်ကို ဦးဆောင်ကာ အီရတ်နိုင်ငံသို့ ချီတက်လာခဲ့သည်။ ထိုအခါအဗ္ဗာစီယာခေါင်းဆောင် အဗူလ်အဗ္ဗားစ်က ဦးလေးဖြစ်သူ အဗ္ဗဒ္ဒလ္လာဟ်ဗင်န်အလီကို ခေါင်းဆောင်ခန့်ကာ အဗ္ဗာစီယာစစ်တပ်ကို စေလွှတ်ခဲ့သည်။ ဟိဂ္ဂျရီ (၁၃၂) ခုနှစ်၊ ခရစ်နှစ် (၇၅၀) ခုနှစ်တွင် အီရက်နိုင်ငံမြောက်ပိုင်း ဇားဗ်မြစ်အနီးတွင် နှစ်ဖက် တပ်များ တိုက်ပွဲဖြစ်ပွားခဲ့သည်။ အင်အားသာလွန်ပြီး စစ်ဗျူဟာပိုမို ကောင်းမွန်သော အဗ္ဗာစီယာစစ်တပ် အနိုင်ရခဲ့သည်။ အိုမိုင်ယာဘုရင် မရ်ဝါးန်သည် အီဂျစ်နိုင်ငံသို့ ထွက်ပြေးသွားသော်လည်း မလွတ်မြောက် ဘဲ အသတ်ခံခဲ့ရသည်။

ဟိဂ္ဂျရီ (၁၃၂) ခုနှစ်၊ ခရစ်နှစ် (၇၅၀) ခုနှစ်တွင် အိုမိုင်ယာ အင်ပါယာမြို့တော် ဒမက်စကပ်မြို့ကို အဗ္ဗာစီယာစစ်တပ်သိမ်းပိုက်နိုင် ခဲ့သည်။

## အိုမိုင်ယာအင်ပါယာခေတ် လုပ်ဆောင်ချက်များ

အိုမိုင်ယာအင်ပါယာသည် ကမ္ဘာ့အကြီးမားဆုံးအင်ပါယာကြီးများထဲတွင် ပါဝင်သည်။ ခလီဖာကြီးလေးပါးခေတ်တွင် ခေါင်းဆောင်မှုအရည်အသွေးပြည့်မီပြီး အများသဘောတူသူကို အုပ်ချုပ်သူအဖြစ်တင်မြှောက်သည့်စနစ်ကို ကျင့်သုံးခဲ့သည်။ သို့သော် အိုမိုင်ယာအင်ပါယာခေတ်တွင် အဆိုပါစနစ်ကို ကျင့်သုံးခြင်းမရှိတော့ဘဲ သားစဉ်မြေးဆက်အမွေဆက်ခံပြီး ဘုရင်ဖြစ်သည့်စနစ်ကို သွတ်သွင်းခဲ့သည်။ အိုမိုင်ယာအင်ပါယာခေတ်ဖြစ်သည့် ဟိဂျ်ရီ (၄၀ - ၁၃၂) ခရစ်နှစ် (၆၆၁ - ၇၅၀) အတွင်း အိုမိုင်ယာဘုရင်များအောင်နိုင်ခဲ့သည့် နယ်ပယ်တိုင်းတွင် အရဗီဘာသာစကားလည်း တွင်ကျယ်သွားခဲ့သည်။ အရဗီငွေကြေးသည် အများသုံးငွေကြေးဖြစ်လာခဲ့သည်။

ဂရိ၊ ပါရှန်း၊ ကော့ပ်တစ်ဘာသာစကားများနှင့်ပြုစုထားသည့်စာပေတို့ကို အရဗီဘာသာသို့ ပြန်ဆိုသည့် ဘာသာပြန်စာပေလှုပ်ရှားမှုများ စတင်တွင်ကျယ်ခဲ့သည်။ အိုမိုင်ယာဘုရင်များသည် ဆောက်လုပ်ရေးဗိသုကာပညာရပ်ကို အားပေးကြပြီး ကမ္ဘာကျော်ဂန္ထဝင်အဆောက်အဦးများစွာ အိုမိုင်ယာခေတ်တွင် ပေါ်ပေါက်ခဲ့သည်။ စာတိုက်စနစ်ကို တွင်ကျယ်စွာ အသုံးပြုခဲ့ကြသည်။ ဂျရီးရ်၊ ဖရဇ်ဒက်၊ အခ်သွလ် စသည့် နာမည်ကျော်ကဗျာဆရာများ ပေါ်ထွန်းခဲ့သည်။ ဘုရင်သည် အမြင့်ဆုံးအာဏာပိုင်ဖြစ်သော်လည်း ပြည်နယ်အုပ်ချုပ်ရေးမှူးများတွင် သီးသန့်လုပ်ပိုင်ခွင့် အာဏာများရှိသည်။ တရားစီရင်ရေးကဏ္ဍတွင် နိုင်ငံတော်က ခန့်အပ်တာဝန်ပေးထားသော တရားသူကြီးများက တာဝန်ယူဆောင်ရွက်ရသည်။

## အိုမိုင်ယာအင်ပါယာပျက်သုဉ်းရခြင်း၏ အကြောင်းအရင်းများ

(၁) ဘုရင်ရွေးချယ်သည့်စနစ် မှားယွင်းခြင်း။ ခေါင်းဆောင်ဖြစ်ထိုက်သူကို မရွေးချယ်ဘဲ သားစဉ်မြေးဆက် အမွေဆက်ခံသည့်စနစ်ကို ကျင့်သုံးသောကြောင့် ပြည်သူအများ၏ထောက်ခံမှုကို မရရှိဘဲ ဆန့်ကျင်ပုန်ကန်မှုများစွာ ပေါ်ပေါက်ခဲ့ရသည်။

(၂) အိုမိုင်ယာဘုရင်များသည် ခလီဖာကြီးလေးပါးကဲ့သို့ ရိုးရှင်းစွာဖြင့် ပြည်သူနှင့်တစ်သားတည်း နေထိုင်ခြင်းမရှိဘဲ ရောမနှင့် ပါရှန်းဘုရင်များကဲ့သို့ စည်းစိမ်ယစ်မူးပြီး တသီးတသန့်နေထိုင်ကြခြင်း။ ထိုအခါ ပြည်သူလူထုနှင့် ထိတွေ့မှုနည်းပါးသွားပြီး အုပ်ချုပ်ရေးကဏ္ဍများတွင် လက်အောက်ခံအရာရှိများက ချယ်လှယ်လာကြသည်။

(၃) ရာထူးခွဲဝေမှုအပိုင်းတွင် မျှတမှုမရှိခြင်း။ ထိုက်တန်သူကို ရာထူးမပေးဘဲ ဆွေမျိုးများနှင့် လူရင်းများကိုသာ ရွေးချယ်ခန့်အပ်ခြင်းကြောင့် ပုန်ကန်မှုများပေါ်ပေါက်လေ့ရှိသည်။

(၄) မျိုးနွယ်စွဲစိတ်များ၊ မျက်ကန်းမျိုးချစ်ဝါဒီများကို အားပေးအားမြှောက်ပြုခြင်း။ ထို့ကြောင့် ကိုင်းစ်မျိုးနွယ်များနှင့် ယမန်နိုင်ငံသားများအကြား ပဋိပက္ခများစွာပေါ်ပေါက်ခဲ့ရပြီး အင်ပါယာတည်ငြိမ်ရေးထိခိုက်ခဲ့သည်။

# အပိုင်း (၅)

# အဗ္ဗာစီယာအင်ပါယာ

## (ဟိဂျ်ရီ ၁၃၂ - ၆၅၆) (ခရစ်နှစ် ၇၅၀ - ၁၂၅၈)

**(အုပ်ချုပ်သည့်ကာလ - ၅၂၄ နှစ်)**

အဗ္ဗာစီယာမျိုးနွယ်သည် တမန်တော်မြတ် ﷺ ၏ ဦးရီးတော် အဗ္ဗားစ် ﷺ ၏ အဆက်အနွယ်များ ဖြစ်သည်။ အဗ္ဗားစ် ﷺ သည် တမန်တော်မြတ် ﷺ ကွယ်လွန်ပြီးနောက် တမန်တော်မြတ် ﷺ နှင့် အနီးစပ်ဆုံးဆွေမျိုးရင်းချာဖြစ်သော်လည်း အုပ်ချုပ်ရေးအာဏာကို တောင်းဆိုခဲ့ခြင်းမရှိပေ။ ခလီဖာကြီးများသည် အဗ္ဗားစ် ﷺ ကို အထူးအလေး ပေးဆက်ဆံခဲ့ကြသည်။

အိုမိုင်ယာဘုရင်တို့၏ မတရားအုပ်ချုပ်မှုကို တော်လှန်မည်ဟု ကြွေးကြော်ပြီး အဗ္ဗာစီယာတို့ ပုန်ကန်ထကြွခဲ့ကြသည်။ မိမိတို့သည် တမန်တော်မြတ် ﷺ ၏ အမွေစားအမွေခံများဖြစ်သည်ဟု ကြွေးကြော်ကာ မိမိတို့ကိုသစ္စာခံရန် လူအများအား လှုံ့ဆော်ကြသည်။ တင်ပြခဲ့သည့်အတိုင်း အဗ္ဗာစီယာတို့၏ တော်လှန်ရေးအောင်မြင်ခဲ့ပြီး အိုမိုင်ယာအင်ပါယာပြိုကွဲကာ အဗ္ဗာစီယာအင်ပါယာပေါ်ပေါက်လာခဲ့သည်။

### အဗ္ဗလ်အဗ္ဗားစ်စဖ်ဖားဟ် (ဟိဂျ်ရီ ၁၃၂ - ၁၃၆)

အဗ္ဗာစီယာစစ်တပ် ကူဖာမြို့ကို သိမ်းယူပြီးနောက် လူအများက အဗ္ဗလ်အဗ္ဗားစ်စဖ်ဖားဟ်အား အုပ်ချုပ်သူဘုရင်အဖြစ် သစ္စာခံခဲ့ကြသည်။ အဗ္ဗာစီယာစစ်တပ်သည် အိုမိုင်ယာအင်ပါယာမြို့တော် ဒမက်

စကပ်ကို သိမ်းယူပြီးနောက် အဗ္ဗလ်အဗ္ဗားစ်သည် အဗ္ဗာစီယာအင်ပါယာကို စတင်တည်ထောင်ခဲ့သည်။ ထို့နောက် အိုမိုင်ယာမျိုးနွယ်နှင့်တကွ နောက်လိုက်နောက်ပါအားလုံးကို အမြစ်ဖြတ်နှိမ်နင်းခဲ့သည်။ ထို့အတူ တော်လှန်ရေးတွင် မဟာမိတ်ဖြစ်ခဲ့သည့် အလဝီမျိုးနွယ်ခေါင်းဆောင် အဗူစလမဟ်အား တော်လှန်ပုန်ကန်လာနိုင်သည်ဟူသော အကြောင်းပြချက်ဖြင့် လုပ်ကြံသတ်ဖြတ်ခဲ့သည်။

သို့သာမက အိုမိုင်ယာတော်လှန်ရေးတွင် အကြီးမားဆုံးအထောက်အပံ့ပေးခဲ့သည် အဗူမွတ်စ်လင်မ်ခိုရာစာနီ၏ အန္တရာယ်ကိုပါ အဗ္ဗလ်အဗ္ဗားစ်က စိုးရိမ်ခဲ့သည်။ အဗ္ဗာစီယာအင်ပါယာ တည်ထောင်ပြီးနောက် ဘုရင်အဗ္ဗလ်အဗ္ဗားစ်က အဗူမွတ်စ်လင်မ်၏ တော်လှန်ရေးကာလကြိုးပမ်း ဆောင်ရွက်ချက်များကို ကျေးဇူးတုန့်ပြန်သည့်အနေနှင့် ခိုရာစာန်ပြည်နယ် အုပ်ချုပ်ရေးမှူးအဖြစ် ခန့်အပ်ခဲ့သည်။ အဗူမွတ်စ်လင်မ်သည် ခိုရာစာန်ပြည်နယ်အုပ်ချုပ်ရေးမှူးဖြစ်ပြီးနောက် အင်အားပိုကောင်းလာသောကြောင့် ဘုရင်အဗ္ဗလ်အဗ္ဗားစ်က စိုးရိမ်ခဲ့ခြင်းဖြစ်သည်။ သို့သော် အဗူမွတ်စ်လင်မ်ကို မရှင်းလင်းရသေးမီ ဘုရင်အဗ္ဗလ်အဗ္ဗားစ် ကွယ်လွန်သွားခဲ့သည်။

ဘုရင်အဗ္ဗလ်အဗ္ဗားစ်သည် အဗ္ဗာစီယာအုပ်ချုပ်ရေးကို အခြေခိုင်အောင် လုပ်ဆောင်နိုင်ခဲ့သည်။ အဗ္ဗာစီယာအင်ပါယာအတွက် အန္တရာယ်ဖြစ်လာနိုင်သူများကို သုတ်သင်ရှင်းလင်းခဲ့သည်။ ကူဖာမြို့မှ မက္ကာဟ်မြို့သို့ သွားရာလမ်းတလျှောက် ခရီးမိုင်တိုင်များ စိုက်ထူပေးခဲ့သည်။ ဘုရင့်နန်းစိုက်မြို့တော်အဖြစ် အီရတ်နိုင်ငံ အန်ဘားရ်မြို့ကို သတ်မှတ်ခဲ့သည်။ အိုမိုင်ယာဘုရင်များလက်ထက်တွင်ကျင့်သုံးခဲ့သည့် ထိုင်လျက်ခွသ်ဗာဖတ်ခြင်းကို ပယ်ဖျက်ပြီး နည်းလမ်းအမှန်ဖြစ်သည့် မတ်တပ်ရပ်သည့်ပုံစံအတိုင်း ကျင့်သုံးခဲ့သည်။ အနက်ရောင်အလံကို အဗ္ဗာစီယာအင်ပါယာအလံအဖြစ် သတ်မှတ်ခဲ့သည်။

ဘုရင်အဗ္ဗလ်အဗ္ဗားစ်သည် ကျောက်ရောဂါဖြစ်ပွားသောအခါ အစ်ကိုဖြစ်သူ အဗူဂျအ်ဖရ်မန်စူးရ်နှင့် တူဖြစ်သူ အီဆာဗင်န်မူဆာတို့ကို အရိုက်အရာဆက်ခံသူများအဖြစ် ရွေးချယ်ခဲ့သည်။ ဟိဂျ်ရီ (၁၃၆) ခုနှစ် ခရစ်နှစ် (၇၅၄) ခုနှစ်တွင် ဘုရင်အဗ္ဗလ်အဗ္ဗားစ်ကွယ်လွန်ခဲ့သည်။

## အဗူဂျအ်ဖရ်မန်စူးရ် (ဟိဂျ်ရီ ၁၃၆ - ၁၅၈)

ဘုရင်အဗ္ဗလ်အဗ္ဗားစ်ကွယ်လွန်ပြီးနောက် အစ်ကိုဖြစ်သူ အဗူဂျအ်ဖရ်မန်စူးရ် ဘုရင်ဖြစ်လာခဲ့သည်။ ဘုရင်ဖြစ်စတွင် အိုမိုင်ယာတော်လှန်ရေးအတွင်း စွမ်းစွမ်းတမံပါဝင်ကြိုးပမ်းခဲ့သူ ဦးလေး အဗ္ဗဒ္ဒလ္လာဟ်ဗင်န်အလီ၏ ပုန်ကန်မှုပေါ်ပေါက်လာပြီး နှိမ်နင်းနိုင်ခဲ့သည်။ ထို့နောက်ညီဖြစ်သူ ဘုရင်အဗ္ဗလ်အဗ္ဗားစ် လက်ထက်တွင် မပြီးပြတ်ခဲ့သော အဗူမွတ်စ်လင်မ်ခိုရာစာနီ၏ အန္တရာယ်ကို ဖြေရှင်းရန် ကြံစည်ခဲ့သည်။ အဗူမွတ်စ်လင်မ်ကို ပရိယာယ်သုံးပြီး လာရောက်တွေ့ဆုံရန် ဖိတ်ခေါ်ခဲ့သည်။ အဗူမွတ်စ်လင်မ်က အကြောင်းအမျိုးမျိုးပြပြီး ဘုရင်၏ဖိတ်ခေါ်မှုကို ငြင်းဆန်နေခဲ့သည်။ သို့သော် ဘုရင်မန်စူးရ်၏ နည်းလမ်းအမျိုးမျိုးနှင့် ကြိမ်ဖန်များစွာ ဖိတ်ခေါ်သောကြောင့် လက်ခံခဲ့ရသည်။ အဗူမွတ်စ်လင်မ်ခိုရာစာနီ ရောက်ရှိလာသောအခါ အမိန့်မနာခံခဲ့မှုကို အကြောင်းပြပြီး ဘုရင်မန်စူးရ်က သေဒဏ်ပေးခဲ့သည်။

ဘုရင်မန်စူးရ်သည် သမိုင်းဝင်ဘဂ္ဂဒါးဒ်မြို့တော်ကို တည်ထောင်ခဲ့သူဖြစ်သည်။ မြို့တော်သည် အဝိုင်းပုံစံဖြစ်ပြီး ခိုင်မာသောတံတိုင်းများနှင့်ကာရံထားသည်။ ပြည်နယ်အသီးသီးကို ဆက်သွယ်နိုင်သော အချက်အချာကျသည့်နေရာတွင် တည်ထားခြင်းဖြစ်သည်။ မြို့တည်ဆောက်ချိန်မှာ လေးနှစ်ခန့် ကြာမြင့်ခဲ့သည်။ ဘဂ္ဂဒါးဒ်မြို့သည်

ထိုခေတ်အခါတွင် အတိုးတက်ဆုံး မြို့တော်တစ်ခုဖြစ်ခဲ့သည်။ ဆန်းသစ်သော ဗိသုကာပညာရပ်များနှင့် တည်ဆောက်ထားသည့် အဆောက်အဦးများ၊ သန့်ရှင်းသပ်ရပ်သော လူနေရပ်ကွက်များနှင့် ညီညာပြန့်ပြူးပြီးကျယ်ပြန့်သော လမ်းမကြီးများနှင့်ဖွဲ့စည်းထားသည့် ပြိုင်စံရှားမြို့တော်တစ်ခုဖြစ်ခဲ့သည်။ သာသနာ့ပညာရပ်များ၊ ခေတ်ပညာရပ်များ ထွန်းကားသော အစ္စလာမ့်ယဉ်ကျေးမှုဗဟိုဌာနဖြစ်ခဲ့သည်။

ဘုရင်မန်စူးရ်သည် ပညာရေးဆိုင်ရာကြိုးပမ်းမှုများကို စနစ်တကျ ထောက်ပံ့ကူညီပေးခဲ့သည်။ ပညာရှင်များက ပါရှန်းနှင့် ဂရိစာပေကျမ်းဂန်များကို အရဗီစာပေသို့ပြန်ဆိုခဲ့သည်။ အစ္စလာမ့်ဥပဒေပညာ၊ ဆေးပညာ၊ နက္ခတ္တဗေဒပညာနှင့် သင်္ချာပညာဆိုင်ရာ စာပေကျမ်းဂန်များပြုစုခဲ့ကြသည်။ လယ်ယာစိုက်ပျိုးရေးအတွက် တူးမြောင်းများဖောက်လုပ်ပေးခဲ့သည်။ ဘဂ္ဂဒါးဒ်မြို့တော်အခြေစိုက် အဗ္ဗာစီယာအင်ပါယာသည် ဩဇာအာဏာကြီးမားကာ ဖွံ့ဖြိုးတိုးတက်ပြီး စည်ပင်သာယာခဲ့သည်။

ဟိဂျ်ရီ (၁၅၈) ခုနှစ်၊ ခရစ်နှစ် (၇၇၅) ခုနှစ်တွင် ဘုရင်မန်စူးရ်သည် ဟဂ်ျခရီးစဉ်တွင် ကွယ်လွန်ခဲ့သည်။ မကွယ်လွန်မီ သားဖြစ်သူ မုဟမ္မဒ်မဟ်ဒီကို အရိုက်အရာဆက်ခံသူအဖြစ် ခန့်အပ်ခဲ့သည်။

## မဟ်ဒီ (ဟိဂျ်ရီ ၁၅၈ - ၁၆၉)

ဘုရင်မန်စူးရ်ကွယ်လွန်ပြီးနောက် သားဖြစ်သူ မုဟမ္မဒ်မဟ်ဒီ ဘုရင်ဖြစ်လာခဲ့သည်။ ဦးစွာပထမ အရည်အချင်းမပြည့်မီသော အုပ်ချုပ်ရေးမှူးများကို ဖြုတ်ချသည်။ တရားရေးဆိုင်ရာ အကြံပေးအဖွဲ့တစ်ဖွဲ့ ဖွဲ့စည်းခဲ့သည်။ တိုင်းသူပြည်သားတို့၏အရေးကိစ္စများကို အလေးထား

ဆောင်ရွက်သော ဘုရင်တစ်ဦးဖြစ်သည်။ ရက်ရောစွာ ပေးကမ်းလှူဒါန်းလေ့ရှိသည်။

ဟိဂျ်ရီ (၁၆၆) ခုနှစ်၊ ခရစ်နှစ် (၇၈၂) ခုနှစ်တွင် ဘုရင်မဟ်ဒီသည် သားဖြစ်သူဟာရူးန်ရရှီးဒ် ဦးဆောင်သော အင်အားကိုးသောင်းခွဲပါသည့် စစ်တပ်ကြီးကို ရောမနယ်မြေသို့စေလွှတ်ခဲ့သည်။ ထိုရောမများသည် တောရက်စ်တောင်တန်းတစ်လျောက်ရှိ အဗ္ဗာစီယာအင်ပါယာပိုင်နယ်မြေများကို လာရောက်တိုက်ခိုက်ခဲ့သည့်အတွက် ဖြစ်သည်။ အဗ္ဗာစီယာစစ်တပ်သည် ဘော့စဖိုးရပ်စ်ရေလက်ကြားအထိ ချီတက်လာခဲ့သည်။ ရောမဘုရင်မ အီရီးန်က အဗ္ဗာစီယာစစ်တပ်ကို ရင်ဆိုင်ရဲခြင်းမရှိသောကြောင့် နှစ်စဉ်ရွှေဒင်္ဂါးခုနှစ်သောင်းအခွန်ဆက်သပါမည်ဟူသော သဘောတူညီချက်ဖြင့် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုခဲ့သည်။

ဟိဂျ်ရီ (၁၆၉) ခုနှစ်၊ ခရစ်နှစ် (၇၈၅) ခုနှစ်တွင် ဘုရင်မဟ်ဒီကွယ်လွန်ခဲ့သည်။

## ဟာဒီ (ဟိဂျ်ရီ ၁၆၉-၁၇၀)

ဘုရင်မဟ်ဒီကွယ်လွန်ပြီးနောက် သားဖြစ်သူ ဟာဒီ ဘုရင်ဖြစ်လာခဲ့သည်။ အုပ်ချုပ်သည့်ကာလမှာ နှစ်နှစ်ကျော်သာ ကြာမြင့်ခဲ့သည်။ ဤကာလအတွင်း ဟိုစိုင်းန်ဗင်န်အလီဦးဆောင်သော တော်လှန်ပုန်ကန်မှုတစ်ရပ်ပေါ်ပေါက်ခဲ့သည်။ ထိုပုန်ကန်မှုကို အဗ္ဗာစီယာစစ်တပ်က နှိမ်နင်းနိုင်ခဲ့သော်လည်း ဟိုစိုင်းန်၏အုပ်စုထဲမှ အိဒ်ရီးစ်ဗင်န်အဗ္ဗဒွလ္လာဟ်သည် မော်ရိုကိုနိုင်ငံသို့လည်းကောင်း၊ ယဟ်ယာဗင်န်အဗ္ဗဒွလ္လာဟ်သည် ကပ်စ်ပီယန်ပင်လယ်တောင်ဘက်ရှိ ဒိုင်လန်ဒေသသို့လည်းကောင်း အသီးသီး ထွက်ပြေးလွတ်မြောက်သွားခဲ့ကြသည်။

ဘုရင်ဟာဒီသည် ညီဖြစ်သူဟာရူးန်ရရှီးဒ်၏ အရိုက်အရာ ဆက်ခံခွင့်ကို ဖျက်သိမ်းပြီး သားဖြစ်သူဂျာ့အ်ဖရ်ကို ဘုရင်အဖြစ် တင်မြှောက်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ ဟိဂျ်ရီ (၁၇၀) ခုနှစ်တွင် ဘုရင်ဟာဒီကွယ်လွန်ခဲ့သည်။

## ဟာရူးန်ရရှီးဒ် (ဟိဂျ်ရီ ၁၇၀-၁၉၃)

## အဗ္ဗာစီယာအင်ပါယာ၏ရွှေခေတ်

ဘုရင်ဟာဒီ ကွယ်လွန်ပြီးနောက် ညီဖြစ်သူဟာရူးန်ရရှီးဒ် ဘုရင်ဖြစ်လာခဲ့သည်။ အဗ္ဗာစီယာခေတ်၏ အကျော်ကြားဆုံးဘုရင်တစ်ဦးဖြစ်သည်။ ဖခင်ဖြစ်သူက စစ်ဦးစီးမှူးအဖြစ် ခန့်အပ်တာဝန်ပေးစဉ်ကတည်းက ခေါင်းဆောင်မှုအရည်အသွေးကို ပြသနိုင်ခဲ့သည်။ ဘုရင်ဟာရူးန်ရရှီးဒ်လက်ထက်တွင် ဘဂ္ဂဒါးဒ်မြို့တော်သည် စီးပွားရေးနှင့် ပညာရေးဆိုင်ရာ အချက်အချာအကျဆုံးနေရာဖြစ်ခဲ့ပြီး ကမ္ဘာ့ခေတ်အမီဆုံးမြို့တော်တစ်ခု ဖြစ်ခဲ့သည်။ ထိုခေတ်အခါက ဘုရင်ဟာရူးန်ရရှီးဒ်ကဲ့သို့ ကမ္ဘာကျော်ဘုရင်မျိုး မပေါ်ပေါက်ခဲ့ဖူးသေးပေ။

များစွာသောစာပေကျမ်းဂန်များကို ဘာသာစကားအသီးသီးဖြင့် အမြောက်အများဖြန့်ချိပေးခဲ့သည်။ အသိဉာဏ်ထက်မြတ်ခြင်း၊ အမြော်အမြင်ကြီးခြင်း၊ ရက်ရောခြင်း၊ ကောင်းမှုကောင်းရာများကို နှစ်သက်ခြင်းစသည့် အရည်အသွေးများနှင့်ကျော်ကြားသော ဘုရင်တစ်ဦးဖြစ်သည်။

ဘုရင်ဟာရူးန်ရရှီးဒ်သည် မိမိ၏ငယ်ဆရာဖြစ်သူ ယဟ်ယာဗင်န်ခါလီဒ်ဗင်န်ဘရ်မက်ကို ဝန်ကြီးချုပ်အဖြစ် ခန့်အပ်ခဲ့သည်။ ယဟ်ယာ၏ သားနှစ်ဦးကိုလည်း အီဂျစ်နယ်နှင့် ခိုရာစာန်နယ်တို့၏ အုပ်ချုပ်ရေးမှူးများအဖြစ် ခန့်အပ်ခဲ့သည်။ ဘုရင်ဟာရူးန်ရရှီးဒ်လက်ထက်တွင် ဘုရင်

ဟာဒီလက်ထက်က တော်လှန်ပုန်ကန်မှုကို ဦးဆောင်ခဲ့သော ဟိုစိုင်းန် ဗင်န်အလီ၏ ညီနှစ်ဦးက ထပ်မံတော်လှန်ပုန်ကန်ခဲ့သည်။ ထိုပုဂ္ဂိုလ် နှစ်ဦးသည် မော်ရိုကိုနှင့် ဒိုင်လန်ဒေသများသို့ ထွက်ပြေးတိမ်းရှောင် သွားပြီးနောက် ထိုဒေသများတွင် တော်လှန်ပုန်ကန်ကြခြင်းဖြစ်သည်။ ဒိုင်လန်ဒေသရှိပုန်ကန်မှုကို နှိမ်နင်းနိုင်ခဲ့သော်လည်း မော်ရိုကိုနိုင်ငံ တွင်ပေါ်ပေါက်ခဲ့သည့် ပုန်ကန်မှုကို ခရီးဝေးကွာလွန်းခြင်း၊ အဆက် အသွယ်နည်းပါးခြင်းတို့ကြောင့် မနှိမ်နင်းနိုင်ခဲ့ပေ။ ထို့ကြောင့် ထိုပုန် ကန်တော်လှန်မှုကို ဦးဆောင်သူအီဒ်ရီးစ်သည် ဖားစ်မြို့တော် အခြေ စိုက် မော်ရိုကိုနိုင်ငံ၏ ဘုရင်တစ်ဦးဖြစ်လာခဲ့သည်။

ပြည်တွင်းရေးပြဿနာများကို ဟာရူးန်ရရှီးဒ်ဘုရင်က အ ကောင်းဆုံးပြေလည်အောင် ဖြေရှင်းနိုင်ခဲ့သည်။ ပြင်သစ်ဘုရင် ရှာလမိန်းနှင့် ဘုရင်ဟာရူးန်ရရှီးဒ်အကြား ခင်မင်ရင်းနှီးသော ဆက်ဆံ ရေးရှိခဲ့သည်။ သမိုင်းတွင်ပထမဦးဆုံး သံတမန်အပြန်အလှန်ထားရှိခဲ့ သည့် ဘုရင်နှစ်ဦးဖြစ်သည်။ ဘုရင်ရှာလမိန်းသည် အဗ္ဗာစီယာ အင်ပါယာတွင် ပြဌာန်းထားသည့် ဥပဒေများကိုလေ့လာပြီး မိမိနိုင်ငံတွင် ပြန်လည်အသုံးချခဲ့သည်။ ဆောက်လုပ်ရေးဗိသုကာပညာ၊ ဆေးပညာ နှင့် ကောဇောလိပ်များရက်လုပ်သည့်ပညာရပ်များကို လေ့လာသင်ယူ ရန် ဘဂ္ဂဒါးဒ်မြို့တော်သို့ ပညာတော်သင်အဖွဲ့များ စေလွှတ်ခဲ့သည်။

ကုန်သည်များအဆင်ပြေစွာသွားလာနိုင်ရန်အတွက် လမ်းမကြီး များ၊ ဇရပ်များနှင့် ရေတွင်းရေကန်များ၊ စာသင်ကျောင်းများ၊ ဗလီများ နှင့် ဆေးရုံများကို နေရာအနှံ့ တည်ဆောက်ပေးခဲ့သည်။ ဘာသာစကား အသီးသီးမှကျမ်းဂန်များကို အရဗီဘာသာစကားသို့ ပြန်ဆိုနိုင်ရေး အတွက် များစွာအားပေး ကူညီခဲ့သည်။ ဆေးကောလိပ်များ တည် ထောင်ပြီး ဆရာဝန်များ မွေးထုတ်ပေးခဲ့သည်။ အမျိုးမျိုးသောအထည် အလိပ်လုပ်ငန်းများ၊ အိုးခွက်ပန်းကန်လုပ်ငန်းများ၊ လက်ဝတ်ရတနာ

လုပ်ငန်းများနှင့် များစွာသောလက်မှုလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ခဲ့ သည်။ စာပေအနုပညာကဏ္ဍကိုလည်း အားပေးသောကြောင့် ကဗျာ ဆရာနှင့် စာပေပညာရှင်များစွာပေါ်ထွက်ခဲ့သည်။

သား (၃) ယောက်ဖြစ်သည့် အမီးန်၊ မာ့အ်မူးန်နှင့် မုအ်သမင်းန် တို့ကို အစဉ်လိုက် အရိုက်အရာဆက်ခံသူများအဖြစ် ဘုရင်ဟာရူးန် ရရှီးဒ်က သတ်မှတ်ပေးခဲ့သည်။ ဟိဂျ်ရီ (၁၉၃) ခုနှစ်၊ ခရစ်နှစ် (၈၀၉) ခုနှစ်တွင် ဘုရင်ဟာရူးန်ရရှီးဒ်ကွယ်လွန်ခဲ့သည်။

## အမီးန် (ဟိဂျ်ရီ ၁၉၃-၁၉၇)

ဘုရင်ဟာရူးန်ရရှီးဒ် ကွယ်လွန်ပြီးနောက် သားဖြစ်သူအမီးန် ဘုရင်ဖြစ်လာခဲ့သည်။ ဖခင်ဟာရူးန်ရရှီးဒ်၏ဆန္ဒကို လိုက်နာလိုသော် လည်း ဝန်ကြီးဖြစ်သူဖဇ်လ်ဗင်န်ရဗီးအ်၏ သွေးထိုးလှုံ့ဆော်မှုကြောင့် ညီဖြစ်သူမာ့အ်မူးန်၏ အရိုက်အရာဆက်ခံခွင့်ကို ရုပ်သိမ်းရန် ကြံစည်ခဲ့ သည်။ ထိုအခါ အရဗ်များထောက်ခံသော အမီးန်၏အုပ်စုနှင့် ပါရှန်းများ ထောက်ခံသော မာ့အ်မူးန်၏အုပ်စုဟူ၍ အုပ်စုနှစ်စုပေါ်ပေါက်လာပြီး အားပြိုင်မှုပေါ်လာခဲ့သည်။ မာ့အ်မူးန်အခြေစိုက်ရာ ခိုရာစားန်နယ်သို့ ဘုရင်အမီးန်စေလွှတ်လိုက်သော စစ်တပ်သည် မာ့အ်မူးန်၏စစ်တပ်ကို ရှုံးနိမ့်ခဲ့သည်။

ဘုရင်အမီးန်သည် ရာမ်ဒေသမှ တပ်ကူများကိုဆင့်ခေါ်ပြီး မိမိ စစ်တပ်ကို ပြန်လည်အားဖြည့်ခဲ့သည်။ မာ့အ်မူးန်ကလည်း ခိုရာစားန် နယ်မှ မိမိစစ်တပ်နှင့်အတူ ဘဂ္ဂဒါးဒ်မြို့တော်သို့ ချီတက်လာခဲ့သည်။ မာ့အ်မူးန်၏စစ်တပ်သည် ဘဂ္ဂဒါးဒ်မြို့တော်ကို ရက်အတန်ကြာ ဝန်းရံ ပိတ်ဆို့ခဲ့ပြီးနောက် ဝင်ရောက်တိုက်ခိုက်ခဲ့ကြသည်။ နောက်ဆုံးတွင်

ဘုရင်အမီးန်အသတ်ခံလိုက်ရပြီး မာ့အ်မူးန်၏စစ်တပ်သည် ဘဂ္ဂဒါးဒ်မြို့တော်ကို သိမ်းပိုက်နိုင်ခဲ့သည်။

### မာ့အ်မူးန် (ဟိဂျ်ရီ ၁၉၈-၂၁၈)

ဘုရင်အမီးန်ကွယ်လွန်ပြီးနောက် မာ့အ်မူးန်ဘုရင်ဖြစ်လာခဲ့သည်။ ဘုရင်ဖြစ်ပြီးနောက် ဘဂ္ဂဒါးဒ်မြို့တော်တွင် မနေထိုင်သေးဘဲ ယခင်နေထိုင်ခဲ့သည့် ခိုရာစားန်ပြည်နယ် မရ်ဝ်မြို့တွင် ဆက်လက်နေထိုင်ခဲ့သည်။ အမီးန်နှင့်ဖြစ်ခဲ့သည့် ပြဿနာတွင် မိမိဘက်မှရပ်တည်ခဲ့သည့် ခိုရာစားန်နယ်သားတို့ စိတ်ကျေနပ်စေရန် ထိုသို့နေထိုင်ပေးခြင်းဖြစ်သည်။ မာ့အ်မူးန်၏ ဝန်ကြီးတစ်ဦးဖြစ်သည့် ဖဇ်လ်ဗင်န်စဟလ်သည် ဘုရင်ကိုအသိမပေးဘဲ ကိစ္စရပ်များစွာကိုပြုလုပ်ပြီး စီမံခန့်ခွဲမှု ညံ့ဖျင်းခဲ့သောကြောင့် ဘဂ္ဂဒါးဒ်မြို့တော်တွင် ပုန်ကန်ထကြွမှုတစ်ခု ပေါ်ပေါက်ခဲ့သည်။ ထို့ကြောင့် မာ့အ်မူးန်လည်း ဝန်ကြီးဖဇ်လ်ကို လျှို့ဝှက်လုပ်ကြံသတ်ဖြတ်ရန် ညွှန်ကြားခဲ့သည်။

ဟိဂျ်ရီ (၂၀၄) ခုနှစ်တွင် ဘုရင်မာ့အ်မူးန်သည် ဘဂ္ဂဒါးဒ်မြို့တော်သို့ ပြောင်းရွှေ့နေထိုင်ခဲ့သည်။ အီဂျစ်ပြည်နှင့် အဇာဘိုင်ဂျန်ပြည်နယ်တို့တွင် ပေါ်ပေါက်ခဲ့သည့် ပုန်ကန်ထကြွမှုများကို နှိမ်နင်းခဲ့သည်။ ဖခင်ဟာရူးန်ရရှီးဒ်ဘုရင်ကဲ့သို့ပင် ပညာရေးနှင့် စာပေအနုပညာရေးရာတို့ကို အားပေးသူတစ်ဦးဖြစ်သည်။ ဘဂ္ဂဒါးဒ်မြို့တော်တွင် ပညာသင်ကြားရေးနှင့် ဘာသာပြန်လုပ်ငန်းအတွက် ဗိုင်သွလ်ဟိက်မာဟ် အမည်ရ ပညာရေးဌာနတစ်ခုကို တည်ထောင်ပေးခဲ့သည်။ ဘုရင်မာ့အ်မူးန်ကိုယ်တိုင်က အရဗီစာပေ၊ သမိုင်းနှင့်အစ္စလာမ့်ဥပဒေရေးရာပညာရပ်များကို လေ့လာလိုက်စားသူဖြစ်သည်။ ဆေးပညာရှင်ဂျေးလင်နှင့် ဟစ်ပိုခရီးတပ်စ်တို့၏ ဆေးပညာကျမ်းများ၊ အရစ္စတိုတယ်၏

သိပ္ပံနှင့် အတွေးအမြင်ဒဿနကျမ်းများ၊ ပလေတို၏ ဒဿနကျမ်းများ၊ ယူကလစ်၏ သင်္ချာပညာရပ်ဆိုင်ရာကျမ်းများ၊ အာခီမီးဒီ၏ကျမ်းများ စသဖြင့် ပညာရပ်ဆိုင်ရာကျမ်းများကို ဘုရင်မာ့အ်မူးန်လက်ထက်တွင် အရဗီစာပေသို့ပြန်ဆိုနိုင်ခဲ့သည်။ ပညာရေးဆိုင်ရာဆွေးနွေးပွဲများနှင့် ကဗျာပြိုင်ပွဲများကို ကြီးကျယ်ခမ်းနားစွာ ကျင်းပပေးလေ့ရှိခဲ့သည်။

ဘုရင်မာ့အ်မူးန်၏ခေတ်သည် ဖွံ့ဖြိုးတိုးတက်ပြီး ပြည်သူများ ချောင်လည်ပြည့်စုံသောခေတ် ဖြစ်သည်။ ဟိဂျ်ရီ (၂၁၈) ခုနှစ်၊ ခရစ်နှစ် (၈၄၄) ခုနှစ်တွင် ဘုရင်မာ့အ်မူးန်ကွယ်လွန်ခဲ့သည်။

## မို့အ်သစွင်မ် (ဟိဂျ်ရီ၂၁၈-၂၂၇)

ဟာရူးန်ရရှီးဒ်ဘုရင်၏ သားတစ်ဦးဖြစ်ပြီး အစ်ကိုဖြစ်သူဘုရင် မာ့အ်မူးန်ကွယ်လွန်ပြီးနောက် ဘုရင်ဖြစ်လာခဲ့သည်။ ရဲစွမ်းသတ္တိရှိသူ တစ်ဦးအဖြစ် ကျော်ကြားသည့်ဘုရင်ဖြစ်သည်။ မိခင်မှာ တူရကီအမျိုး သမီးတစ်ဦးဖြစ်သည်။ ဘုရင်မာ့အ်မူးန်လက်ထက်တွင် အင်အားကြီး ထွားသော ပါရှန်းလူမျိုးတို့၏သြဇာကို ပြန်လည်ထိန်းချုပ်နိုင်ရန် အတွက် ကိုယ်ပိုင်တူရကီစစ်တပ်တစ်ခုကို တည်ထောင်ခဲ့သည်။ ထိုတူရကီစစ်သားများနှင့် မြို့နေများ အတူယှဉ်တွဲနေထိုင်ရန် အဆင် မပြေသောကြောင့် ဘဂ္ဂဒါးဒ်မြို့မြောက်ဘက် မိုင် (၇၀) ခန့်အကွာတွင် ဆာမိုရာအမည်ရ မြို့တော်အသစ်တစ်ခုကို တည်ထောင်ပြီး ပြောင်းရွှေ့ နေထိုင်ခဲ့သည်။ ထိုမြို့တော်တွင် ထည်ဝါသောနန်းတော်ကြီးတစ် ဆောင်၊ (၅၅) မီတာအမြင့်ရှိသောမျှော်စင်ပါရှိသည့် ဗလီကြီးတစ်လုံးနှင့် တူရကီစစ်သားများနေထိုင်ရန်အတွက် သီးသန့်ရပ်ကွက်များ ထည့်သွင်း တည်ဆောက်ထားသည်။

ဘုရင်မာ့အ်မူးန်လက်ထက်တွင် နိုမ်နင်းခံခဲ့ရပြီး ထွက်ပြေးလွတ်မြောက်ကာ ပြန်လည်အင်အားကောင်းလာသော အဇာဘိုင်ဂျန်ဒေသမှ အဖျက်အမှောက်သမား ဘာဘက်ခရ်မီကို စစ်သူကြီးအဖ်ရှီးန်၏ ဦးဆောင်မှုဖြင့် နိုမ်နင်းနိုင်ခဲ့သည်။ အဇာဘိုင်ဂျန်ဒေသတွင် အဗ္ဗာစီယာစစ်တပ်များ စစ်တိုက်နေရခြင်းကို အခွင့်ကောင်းယူကာ ရောမတို့က အဗ္ဗာစီယာပိုင်နယ်မြေများကို ဝင်ရောက်တိုက်ခိုက်ကြသည်။ ထို့ကြောင့် ခရစ်နှစ် (၈၃၈) ခုနှစ်တွင် ဘုရင်မို့အ်သစွင်မ်ကိုယ်တိုင်ဦးစီးသော အဗ္ဗာစီယာစစ်တပ်သည် ရောမနယ်မြေသို့ ချီတက်လာခဲ့သည်။ အမိုရီယမ်မြို့တွင် ပြင်းထန်သောတိုက်ပွဲဖြစ်ခဲ့ပြီး အဗ္ဗာစီယာ စစ်တပ်အနိုင်ရခဲ့သည်။ ဘုရင်မာ့အ်မူးန်လက်ထက်တွင် အရှိန်အဟုန်ဖြင့် တိုးတက်ခဲ့သော ဘာသာပြန်လုပ်ငန်းသည်လည်း ဘုရင်မို့အ်သစွင်မ်လက်ထက်တွင် ဆက်လက်လည်ပတ်ခဲ့သည်။

ဩဇာအာဏာကြီးလာသော စစ်သူကြီးအဖ်ရှီးန်သည် သီးသန့်နိုင်ငံတည်ထောင်ရန်ကြံစည်နေကြောင်း သတင်းပေါက်ကြားလာသည့်အတွက် စုံစမ်းစစ်ဆေးပြီး ကွက်မျက်ခံခဲ့ရသည်။ ဟိဂျ်ရီ (၂၂၇) ခုနှစ်၊ ခရစ်နှစ် (၈၄၃) ခုနှစ်တွင် ဘုရင်မို့အ်သစွင်မ်ကွယ်လွန်ခဲ့သည်။

## ဝါစိက်ဗင်န်မုအ်သစွင်မ် (ဟိဂျ်ရီ၂၂၇-၂၃၂)

ဘုရင်မွ့အ်သစွင်မ်ကွယ်လွန်ပြီးနောက် သားဖြစ်သူ ဝါစိက်ဘိလ္လာဟ် ဘုရင်ဖြစ်လာခဲ့သည်။ စာပေအနုပညာကို ချစ်မြတ်နိုးသော ဘုရင်တစ်ဦးဖြစ်သည်။ ဖခင်ကဲ့သို့ပင် တူရကီလူမျိုးစစ်သည်တို့ကို နေရာပေးခဲ့သည်။ ဆာမိုရာမြို့တော်တွင် နန်းစိုက်ခဲ့သည်။ ထို့ကြောင့် တူရကီတို့၏ဩဇာအာဏာ ပိုမိုကြီးထွားလာခဲ့သည်။ ဟေဂျားဇ်နယ်နှင့် နဂ်ျဒ်နယ်တို့တွင် ပေါ်ပေါက်ခဲ့သော ပုန်ကန်တော်လှန်မှုများကို တူရကီစစ်သူကြီး ဘဂါဦးဆောင်သော စစ်တပ်ဖြင့် နှိမ်နင်းနိုင်ခဲ့သည်။

ဟိဂျ်ရီ (၃၃၂) ခုနှစ်၊ ခရစ်နှစ် (၈၄၇) ခုနှစ်တွင် ဘုရင်ဝါစိက်ကွယ်လွန်ခဲ့သည်။

## မိုသဝက္ကိလ် (ဟိဂျ်ရီ ၂၃၂-၂၄၇)

ဘုရင်ဝါစိက်ကွယ်လွန်ပြီးနောက် ညီဖြစ်သူ မိုသဝက္ကိလ် အလလ္လာဟ် ဘုရင်ဖြစ်လာခဲ့သည်။ တရားသစ်တီထွင်မှုများကို အပြင်းအထန်တိုက်ဖျက်ခဲ့သူဖြစ်သည်။ အေမာမ်အဟ်မဒ်ဗင်န်ဟာန်ဗလ် ထံမှ အကြံဉာဏ်ရယူပြီး လမ်းလွဲလမ်းမှားမှုများကိုတိုက်ဖျက်ကာ စွန္နသ်လမ်းစဉ်ကို ပြန်လည်ရှင်သန်စေခဲ့သည်။

မိုသဝက္ကိလ်လက်ထက်တွင် တူရကီလူမျိုးတို့၏ ဩဇာအာဏာ ပိုမိုကြီးထွားလာခဲ့သောကြောင့် ဘုရင်ကိုယ်တိုင် မိမိအာဏာအတွက် ပြန်လည်စိုးရိမ်လာခဲ့ရသည်။ မာဟူဇာ (သို့) မို့သဝလ်ကေလီယား အမည်ရ မြို့သစ်တစ်ခုကို တည်ထောင်ပြီး ပြောင်းရွှေ့နေထိုင်ခဲ့သည်။ ကြီးထွားလာသော တူရကီတို့၏ ဩဇာအာဏာကို လျှော့ချနိုင်ရန် အတွက် အုပ်ချုပ်ရေးကဏ္ဍတွင် အရဗ်တို့ကိုပြန်လည်နေရာပေးရန် ကြိုးစားလာခဲ့သည်။ ထိုအခါတူရကီတို့ကလည်း ဘုရင်ကို မလိုလား တော့ဘဲ လုပ်ကြံသတ်ဖြတ်ရန် ကြံစည်ခဲ့ကြသည်။

တူရကီတို့၏ လုပ်ကြံသတ်ဖြတ်မှုကြောင့် ဘုရင်မွဲသဝက္ကိလ် သည် ဟိဂျ်ရီ (၂၄၇) ခုနှစ်၊ ခရစ်နှစ် (၈၆၁) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

## အဗ္ဗာစီယာအင်ပါယာအင်အားချိနဲ့လာခြင်းနှင့် ပျက်သုဉ်းခြင်း

အဗ္ဗာစီယာအင်ပါယာ အင်အားကောင်းနေစဉ်ကတည်းက အဗ္ဗာစီယာအင်ပါယာ၏ လက်အောက်တွင်မရှိသော သီးသန့်

ရပ်တည်သည့် နယ်မြေများရှိနေခဲ့ပြီဖြစ်သည်။ စပိန်ဒေသတွင် စပိန်အိုမိုင်ယာနိုင်ငံ၊ မော်ရိုကိုဒေသတွင် အီဒ်ရီစီယာနိုင်ငံ၊ လစ်ဗျား၊ တူနီးရှားနှင့် အလ်ဂျီးရီးယားမြောက်ပိုင်းတို့တွင် အဂ်လဘီယာနိုင်ငံ စသဖြင့် နယ်ဝေးဒေသများတွင် သီးခြားနိုင်ငံများရှိနေခဲ့ပြီဖြစ်သည်။

ဘုရင်မုသဝက္ကိလ် လုပ်ကြံသတ်ဖြတ်ခံခဲ့ရပြီးသည့်အချိန်မှစ၍ တူရကီတို့၏ဩဇာအာဏာ ပိုမိုခိုင်မာအားကောင်းလာခဲ့သည်။ တူရကီတို့၏ သဘောဆန္ဒနှင့်အညီ ဘုရင်အပြောင်းအလဲများဖြစ်ရသည်။ အဗ္ဗာစီယာဘုရင်တို့၏ အရှိန်အဝါနှင့် ဩဇာအာဏာ ကျဆင်းသွားခဲ့သည်။ နယ်ပယ်ဒေသအသီးသီးတွင် ခွဲထွက်ရေးလှုပ်ရှားမှုများ ပေါ်ပေါက်လာခဲ့ပြီး သီးခြားနိုင်ငံများ တည်ထောင်လာခဲ့ကြသည်။ နောက်ပိုင်း အဗ္ဗာစီယာအင်ပါယာခေတ်ကို ခေတ်ကာလ (၃) ပိုင်း ခွဲခြားနိုင်သည်။

(၁) တူရကီလူမျိုးများလွှမ်းမိုးချုပ်ကိုင်သောခေတ်

(၂) ဘိုဝိုင်ဟီလူမျိုးများလွှမ်းမိုးချုပ်ကိုင်သောခေတ်

(၃) စလ်ဂျူကီများလွှမ်းမိုးချုပ်ကိုင်သောခေတ်

အဗ္ဗာစီယာဘုရင်အရေအတွက်မှာ (၃၇) ဦးဖြစ်သည်။ ဟိဂျ်ရီ (၆၅၆) ခုနှစ်တွင် မွန်ဂိုတာတာရီတို့၏ ကျူးကျော်တိုက်ခိုက်မှုကြောင့် အဗ္ဗာစီယာအင်ပါယာ ပြိုကွဲပျက်ဆီးသွားခဲ့သည်။

## အဗ္ဗာစီယာအင်ပါယာခေတ် လုပ်ဆောင်ချက်များ

အဗ္ဗာစီယာဘုရင်များသည် ပညာရေးကိုအားပေးပြီး များစွာ ထောက်ပံ့ကူညီခဲ့ကြသည်။ အဗ္ဗာစီယာခေတ်တွင် ထင်ရှားသော

ဖေကာဟ်လမ်းစဉ်ကြီး (၄) သွယ် ပေါ်ပေါက်ခဲ့သည်။ ထင်ရှားသော ဟဒီးဆ်ပညာရှင်များဖြစ်သည့် အေမာမ်ဗိုခါရီ၊ အေမာမ်မွတ်စ်လင်မ်နှင့် အခြားပညာရှင်များသည်လည်း အဗ္ဗာစီယာခေတ်တွင် ပေါ်ထွန်းခဲ့သည်။ ကေရာအသ်ပညာရပ်ဆိုင်ရာ အေမာမ်ကြီးများလည်း အဗ္ဗာစီယာခေတ်တွင် ပေါ်ထွန်းခဲ့သည်။ အရဗီကဗျာဆရာအကျော်အမော်များလည်း ပေါ်ထွန်းခဲ့သည်။ အဗ္ဗာစီယာခေတ်အရဗီကဗျာများသည် အရဗီဂန္ထဝင်စာပေစာရင်းဝင်ဖြစ်သည်။ ထို့အတူ အရဗီစာပေအနုပညာကဏ္ဍတွင်လည်း တိုးတက်ခဲ့သည်။ များစွာသော ကဗျာဆရာအကျော်အမော်များနှင့် စာပေပညာရှင်များ ပေါ်ထွန်းခဲ့သည်။ ကျော်ကြားသော အရဗီသဒ္ဒါပညာရှင်များလည်း ပေါ်ထွန်းခဲ့သည်။

ထို့အတူ အဗ္ဗာစီယာဘုရင်တို့၏ အားပေးထောက်ပံ့မှုကြောင့် ဘာသာစကားအသီးသီးနှင့်ရှိနေသည့် လောကဓာတ်ပညာရပ်ဆိုင်ရာ ကျမ်းဂန်များကိုလည်း အရဗီစာပေသို့ ပြန်ဆိုကာ လေ့လာသင်ယူပြီး ဆက်လက်သုတေသနပြုခဲ့ကြသည်။ ဥရောပအထက်တန်းလွှာ၌ပင် စာတက်မြောက်သူဦးရေ နည်းပါးသောခေတ်တွင် အရဗ်တက္ကသိုလ်များတွင် ယူကလစ်နှင့် အာခီမီးဒီတို့၏ ကျမ်းများကို လေ့လာသင်ယူနေကြပြီဖြစ်သည်။ သင်္ချာပညာရှင်များ၊ နက္ခတ္တဗေဒပညာရှင်များ၊ သိပ္ပံပညာရှင်များ၊ ဆေးပညာရှင်များနှင့် ပထဝီဝင်ပညာရှင်များစွာ အဗ္ဗာစီယာခေတ်တွင် ပေါ်ထွန်းခဲ့သည်။ များစွာသောပညာရပ်ဆိုင်ရာကျမ်းဂန်များ ပြုစုနိုင်ခဲ့သည်။

ဆောက်လုပ်ရေးဗိသုကာပညာရပ်တွင်လည်း နာမည်ကျော် အရဗစ်ဗိသုကာသည် အဗ္ဗာစီယာခေတ် ဗိသုကာလက်ရာများဖြစ်သည်။ ဘဂ္ဂဒါးဒ်မြို့တော်သည် ဗိသုကာလက်ရာများနှင့် စီခြယ်ထားသော မြို့တော်တစ်ခုဖြစ်ခဲ့သည်။ များစွာသောနန်းတော်များ၊ ဗလီကြီးများနှင့်

မျှော်စင်များတွင် အဗ္ဗာစီယာခေတ်ဗိသုကာအလှတရားများကို ထင်ရှားစွာ တွေ့ရမည်ဖြစ်သည်။

လယ်ယာစိုက်ပျိုးရေးကို တွင်ကျယ်စွာပြုလုပ်ကြပြီး လယ်ယာစိုက်ပျိုးရေးအတွက် တူးမြောင်းများကို အင်ပါယာတစ်ဝှမ်း ဖောက်လုပ်ပေးခဲ့သည်။ အထည်အလိပ်လုပ်ငန်း၊ ကောဇောလုပ်ငန်း၊ ဟင်းခတ်အမွှေးအကြိုင်နှင့် ရေမွှေးလုပ်ငန်းများ တွင်ကျယ်ခဲ့သည်။ တရုတ်နှင့် အိန္ဒိယနိုင်ငံတို့အထိ အရဖ်ကုန်သည်များ ခြေဆန့်ခဲ့ကြသည်။

နိုင်ငံတော်ဘာသာသည် အစ္စလာမ်ဘာသာဖြစ်သော်လည်း အခြားဘာသာများကို လွတ်လပ်စွာ ကိုးကွယ်ခွင့်ပေးထားသည်။ အခြားဘာသာဝင်များကိုလည်း အရည်အချင်းနှင့်အညီ နိုင်ငံတော်အဆင့် ရာထူးများအထိ ခန့်အပ်ခဲ့သည်။

# အပိုင်း (၆)

# အဗ္ဗာစီယာအင်ပါယာမှခွဲထွက်ခဲ့သော နယ်မြေဒေသများ

## အခန်း ၁။ စပိန်နိုင်ငံ

### အိုမိုင်ယာခေတ်

**အဗ္ဗဒွရ်ရဟ်မားန် (ဟိဂျ်ရီ ၁၃၉- ၁၇၆)**

စပိန်၊ ပေါ်တူဂီဒေသများပါဝင်သည့် အိုက်ဘေးရီးယန်း ကျွန်းဆွယ်ကို အိုမိုင်ယာအင်ပါယာခေတ် ဟိဂျ်ရီ (၉၂) ခုနှစ်၊ ခရစ်နှစ် (၇၁၀) ခုနှစ်တွင် အရဗ်မွတ်စ်လင်မ်တို့ အောင်နိုင်ခဲ့သည်။ ထိုအချိန်မှ စ၍ စပိန်ကို အိုမိုင်ယာဘုရင်များက အာဖရိကဒေသ၏ ပြည်နယ်ခွဲ တစ်ခုအဖြစ် သတ်မှတ်အုပ်ချုပ်ခဲ့ကြသည်။ ဟိဂျ်ရီ (၁၃၂) ခုနှစ်၊ ခရစ်နှစ် (၇၅၀) ခုနှစ်တွင် အိုမိုင်ယာအင်ပါယာပျက်သုဉ်းပြီးနောက် အဗ္ဗာစီယာအင်ပါယာ ပေါ်ပေါက်လာသည်။ အဗ္ဗာစီယာစစ်တပ်များက အိုမိုင်ယာမျိုးနွယ်များကို တစ်ယောက်မကျန် သတ်ဖြတ်ရှင်းလင်းခဲ့ ကြသည်။ အိုမိုင်ယာမျိုးနွယ်ထဲမှ အဗ္ဗဒွရ်ရဟ်မားန်ဗင်န်မိုအာဝေယာ ဗင်န်ဟေရှားမ်သည် အာဖရိကဒေသသို့ ထွက်ပြေးလွတ်မြောက်သွားခဲ့ သည်။

ထိုအချိန်တွင် စပိန်ဒေသ၌ ပြည်တွင်းရေးမတည်မငြိမ် ဖြစ်နေသည်။ ထိုအချက်ကို အခွင့်ကောင်းယူပြီး အဗ္ဗဒွရ်ရဟ်မားန်သည်

အိုမိုင်ယာထောက်ခံသူများနှင့် ပူးပေါင်းကာ စပိန်ဒေသသို့ချီတက်လာခဲ့သည်။ စပိန်ဒေသအုပ်ချုပ်ရေးမှူးယူစွဖ်ဖဟ်ရီ၏ စစ်တပ်နှင့် အဗ္ဗဒွရ်ရဟ်မားန်ဦးဆောင်သော အိုမိုင်ယာထောက်ခံသူစစ်တပ် တိုက်ပွဲဖြစ်ပွားပြီး အဗ္ဗဒွရ်ရဟ်မားန်၏စစ်တပ် အနိုင်ရခဲ့သည်။ ဟိဂျ်ရီ (၁၃၉) ခုနှစ်၊ ခရစ်နှစ် (၇၅၆) ခုနှစ်တွင် အဗ္ဗဒွရ်ရဟ်မားန်၏စစ်တပ်သည် ကော်ဒိုဗာမြို့တော်ကို သိမ်းပိုက်နိုင်ခဲ့ပြီး စပိန်အိုမိုင်ယာနိုင်ငံကို တည်ထောင်ခဲ့သည်။ အဗ္ဗာစီယာဘုရင် အဗူဂျအ်ဖရ်မန်စူးရ်သည် စပိန်ဒေသကို ပြန်လည်သိမ်းယူပြီး အဗ္ဗာစီယာအင်ပါယာလက်အောက်သို့ သွတ်သွင်းရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ပါ။ ထို့အတူဥရောပဘုရင်တစ်ဦးဖြစ်သည့် ရှာလမိန်းကလည်း အဗ္ဗဒွရ်ရဟ်မားန်၏ အုပ်ချုပ်မှု အောက်တွင်မရှိသည့် စပိန်မြောက်ပိုင်းဒေသအချို့နှင့်ပူးပေါင်းပြီး စပိန်အိုမိုင်ယာနိုင်ငံကို တိုက်ခိုက်သိမ်းပိုက်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ပါ။

အဗ္ဗဒွရ်ရဟ်မားန်သည် အုပ်ချုပ်ရေးကို အခြေခိုင်အောင် ဆောင်ရွက်ရင်း တိုင်းပြည်တိုးတက်ရေးအတွက်ပါ အစီအစဉ်များ ချမှတ်လုပ်ဆောင်ခဲ့သည်။ လယ်ယာစိုက်ပျိုးရေး၊ လက်မှုပညာရပ်များနှင့်အတူပညာရပ်အသီးသီးကိုလည်း အားပေးထောက်ပံ့ခဲ့သည်။ ကော်ဒိုဗာမြို့တော်သည် နန်းတော်များ၊ ဗလီများ၊ တက္ကသိုလ်များနှင့် ပညာရေးဌာနများစွာရှိသည့် ခမ်းနားထည်ဝါသော မြို့တော်တစ်ခုဖြစ်ခဲ့သည်။ နာမည်ကျော်ကော်ဒိုဗာဝတ်ကျောင်းတော်ကို စတင်အုတ်မြစ်ချတည်ဆောက်ခဲ့သည်။

ဟိဂျ်ရီ (၁၇၆)၊ ခုနှစ် ခရစ်နှစ် (၇၈၈) ခုနှစ်တွင် ဘုရင်အဗ္ဗဒွရ်ရဟ်မားန် ကွယ်လွန်ခဲ့သည်။

## ဟေရှားမ်ဗင်န်အဗ္ဗဒွရ်ရဟ်မားန် (ဟိဂျ်ရီ ၁၇၆ - ၁၈၀)

ဘုရင်အဗ္ဗဒွရ်ရဟ်မားန် ကွယ်လွန်ပြီးနောက် သားဖြစ်သူ ဟေရှားမ် ဘုရင်ဖြစ်လာခဲ့သည်။ ဘာသာရေးကိုင်းရှိုင်းပြီး တရားမျှတမှု ကိုလိုလားကာ တိုင်းသူပြည်သားတို့၏ အရေးကိစ္စများကို အလေးထား ဆောင်ရွက်သော ဘုရင်တစ်ဦးဖြစ်သည်။ စိုက်ပျိုးရေး၊ ကူးသန်း ရောင်းဝယ်ရေးနှင့် ဆောက်လုပ်ရေးဗိသုကာလုပ်ငန်းများကို များစွာ အားပေးခဲ့သည်။ ဖခင်လက်ထက်တွင် စတင်ခဲ့သော ကော်ဒိုဗာဝတ် ကျောင်းတော်တည်ဆောက်ရေးကို အပြီးသတ်နိုင်ခဲ့သည်။ ကော်ဒိုဗာ မြို့တော်ကို စနစ်တကျ ခမ်းနားထည်ဝါစွာ ပုံဖော်တည်ဆောက်ခဲ့သည်။

နယ်ပယ်အသီးသီးမှ ပညာရှင်များကို အားပေးကူညီခဲ့သည်။ ဆင်းရဲသားပြည်သူများအတွက် ထောက်ပံ့ရေးအစီအစဉ်များကို စနစ် တကျ ချမှတ်အကောင်အထည်ဖော်ခဲ့သည်။ ဘုရင်ဟေရှားမ် အုပ်ချုပ် သောခေတ်သည် ဖွံ့ဖြိုးတိုးတက်ပြီး ပြည်သူများချောင်လည်ပြည့်စုံ သော ခေတ်ဖြစ်ခဲ့သည်။

ဟိဂျ်ရီ (၁၈၀) ခုနှစ်၊ ခရစ်နှစ် (၇၉၆) ခုနှစ်တွင် ဘုရင်ဟေရှားမ် ကွယ်လွန်ခဲ့သည်။

## ဟကမ်ဗင်န်ဟေရှားမ် (ဟိဂျ်ရီ ၁၈၀ - ၂၀၆)

ဘုရင်ဟေရှားမ်ကွယ်လွန်ပြီးနောက် သားဖြစ်သူ ဟကမ်ဘုရင် ဖြစ်လာခဲ့သည်။ ဖခင်ဖြစ်သူ ဘုရင်ဟေရှားမ်ကျင့်သုံးခဲ့သော တရားမျှတ သည့် အုပ်ချုပ်ရေးစနစ်ကို ပစ်ပယ်ခဲ့သည်။ အုပ်ချုပ်ရေးကဏ္ဍတွင် ပညာရှင်တို့၏ အခန်းကဏ္ဍကို လျှော့ချခဲ့သည်။ ထို့ကြောင့် ပညာရှင်တို့ ၏ ဆန့်ကျင်မှုများနှင့် ကြုံခဲ့ရသည်။ အခွန်အခတိုးကောက်ခြင်းနှင့် အထွေထွေပြဿနာများကြောင့် ပုန်ကန်တော်လှန်မှုများ ပေါ်ပေါက်

လာခဲ့သည်။ သို့သော် ဘုရင်ဟာကမ်က နှိမ်နင်းနိုင်ခဲ့သည်။ ဥရောပ ဘုရင်အချို့၏ ဝင်ရောက်တိုက်ခိုက်မှုများကိုလည်း ခုခံရင်ဆိုင်နိုင်ခဲ့ သည်။

ဟိဂ်ျရီ (၂၀၆) ခုနှစ်၊ ခရစ်နှစ် (၈၇၇) ခုနှစ်တွင် ဘုရင်ဟာကမ် ကွယ်လွန်ခဲ့သည်။

**အဗ္ဗဒွရ်ရဟ်မားန်စာနီ (ဟိဂ်ျရီ ၂၀၆ - ၂၃၈)**

ဘုရင်ဟာကမ်ကွယ်လွန်ပြီးနောက် သားဖြစ်သူအဗ္ဗဒွရ်ရဟ်မားန် စာနီ ဘုရင်ဖြစ်လာခဲ့သည်။ ပညာရပ်အသီးသီးနှင့် ဆောက်လုပ်ရေး ဗိသုကာကို အားပေးသောဘုရင်တစ်ဦးဖြစ်သည်။ များစွာသောပညာ ရေးဌာနများ၊ ဆေးရုံများနှင့်ဗလီဝတ်ကျောင်းတော်များ တည်ဆောက်ခဲ့ သည်။ ကော်ဒိုဗာမြို့တော်ကို ပိုမိုကြီးကျယ်ခမ်းနားအောင် မွမ်းမံ တည်ဆောက်ခဲ့သည်။ ထို့ကြောင့် ကော်ဒိုဗာမြို့တော်သည် အဗ္ဗာစီယာ အင်ပါယာနန်းစိုက်မြို့တော် ဘဂ္ဂဒါး3်မြို့နှင့်အပြိုင် ပညာရေးနှင့် ဗိသုကာပညာရပ်ဆိုင်ရာ အချက်အချာမြို့တော်တစ်ခု ဖြစ်ခဲ့သည်။ အဗ္ဗဒွရ်ရဟ်မားန်စာနီလက်ထက်တွင် အရဗ်စပိန်နိုင်ငံ၏ ရွှေရောင် ခေတ်ကာလ အစပြုပြီဖြစ်သည်။

ဘုရင်အဗ္ဗဒွရ်ရဟ်မားန်စာနီသည် ကဗျာ၊ ဒဿနိကဗေဒနှင့် သာသနာရေးရာပညာရပ်များကို လေ့လာလိုက်စားသူတစ်ဦးဖြစ်သည်။ ဂရိစာပေကျမ်းဂန်များကို ဘာသာပြန်ဆိုရန်အတွက် ကော်မတီများ ဖွဲ့စည်းပေးခဲ့သည်။ နန်းတော်အတွင်း ပညာရပ်ဆိုင်ရာဆွေးနွေးပွဲများ နှင့် ဒဿနစကားဝိုင်းများကို မကြာခဏ ကျင်းပပေးခဲ့သည်။ စပိန်နိုင်ငံ သည် ဖွံ့ဖြိုးတိုးတက်ပြီး တည်ငြိမ်အေးချမ်းခဲ့သည်။ များစွာသော စပိန်နိုင်ငံသားများ အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့သည်။

ဟိဂ်ျရီ (၂၃၀) ခုနှစ်တွင် နော်မန်လူမျိုးတို့၏ ကျူးကျော်တိုက်ခိုက်မှုကို ကာကွယ်တားဆီးနိုင်ခဲ့သည်။ ဟိဂ်ျရီ (၂၃၈) ခုနှစ်တွင် ဘုရင်အဗ္ဗဒ္ဒရ်ရဟ်မားန်စာနီ ကွယ်လွန်ခဲ့သည်။

## ဆုတ်ယုတ်ကျဆင်းသောနှစ်များ (ဟိဂ်ျရီ ၂၃၈ - ၃၀၀)

ဘုရင်အဗ္ဗဒ္ဒရ်ရဟ်မားန်စာနီ ကွယ်လွန်ပြီးနောက် နှစ်ပေါင်း (၆၂) နှစ်အထိကာလသည် တိုင်းပြည်မတည်မငြိမ်ဖြစ်သောကာလဖြစ်သည်။ ထိုကာလအတွင်း ဘုရင်သုံးဦး အုပ်ချုပ်ခဲ့သည်။ ထိုဘုရင်များသည် အရည်အချင်းပြည့်မီခြင်းမရှိသောကြောင့် တိုင်းပြည်ကို နိုင်နင်းစွာအုပ်ချုပ်နိုင်စွမ်းမရှိခဲ့ပါ။ ထို့ကြောင့် ထိုကာလတွင် တိုင်းပြည်အင်အား ကျဆင်းခဲ့သည်။ ထိုဘုရင် (၃) ဦးမှာ အောက်ပါအတိုင်းဖြစ်သည်။

**မုဟမ္မဒ်ဗင်န်အဗ္ဗဒ္ဒရ်ရဟ်မားန်**

**မွန်ဇိရ်ဗင်န်မုဟမ္မဒ်**

**အဗ္ဗဒ္ဒလ္လာဟ်ဗင်န်မုဟမ္မဒ်**

## စပိန်အိုမိုင်ယာနိုင်ငံ၏ ရွှေရောင်ခေတ်ကာလများ

## အဗ္ဗဒ္ဒရ်ရဟ်မားန်စာလိစ် (ဟိဂ်ျရီ ၃၀၀ - ၃၅၀)

ထို့နောက် ဘုရင်အဗ္ဗဒ္ဒလ္လာဟ်ဗင်မုဟမ္မဒ်၏မြေးဖြစ်သူ အဗ္ဗဒ္ဒရ်ရဟ်မားန်စာလ်စ် ဘုရင်ဖြစ်လာသည်။ မတည်မငြိမ်ဖြစ်နေသောတိုင်းပြည်အခြေအနေကို အကောင်းဆုံးထိန်းသိမ်းနိုင်ခဲ့ပြီး ငြိမ်ဝပ်ပိ

ပြားအောင် စွမ်းဆောင်နိုင်ခဲ့သည်။ တိုင်းပြည်တည်ငြိမ်အေးချမ်းစေရန် ကြိုးပမ်းဆောင်ရွက်ပြီးနောက် တိုင်းပြည်တိုးတက်ရေးအတွက် အစီအစဉ်များ ချမှတ်အကောင်အထည်ဖော်ခဲ့သည်။ ဆောက်လုပ်ရေး၊ လယ်ယာစိုက်ပျိုးရေးနှင့် လက်မှုလုပ်ငန်းများ တိုးတက်ခဲ့သည်။ ဤခေတ်ကို စပိန်အိုမိုင်ယာနိုင်ငံ၏ ရွှေခေတ်ဟု တင်စားခေါ်ဝေါ်ကြသည်။

ကော်ဒိုဗာမြို့၏ အနောက်မြောက်ဘက်ရှိ တောင်ကုန်းတစ်ခုပေါ်တွင် ကဆ့်ရ္ရရှ်ဇဟ်ရာ့အ် နန်းမြို့တော်ကို တည်ဆောက်ခဲ့သည်။ (၂၁) နှစ်ခန့် အချိန်ယူတည်ဆောက်ခဲ့ပြီး စကျင်ကျောက်များနှင့် ရွှေရောင်အရုပ်များစီခြယ်ထားသည့်တိုင်များကို အသုံးပြုထားသည်။ ထိုနန်းတော်တွင် ဗလီကြီးတစ်လုံး နှင့် ခန်းမကျယ်ကြီးတစ်ခုအပါအဝင် အခန်းငယ်ပေါင်း (၄၀၀) ခန့်ပါဝင်သည်။ ခမ်းနားသော အဆောက်အဦးများ၊ ညအချိန်တွင် မီးတိုင်များထွန်းညှိပေးထားသည့် ကျောက်ခင်းလမ်းမကြီးများ၊ စိမ်းစိုလန်းဆန်းသောဥယျာဉ်များနှင့် ကော်ဒိုဗာမြို့တော်သည် ကမ္ဘာကျော်မြို့တော်တစ်ခုဖြစ်ခဲ့သည်။ ကော်ဒိုဗာမြို့တော်ရှိ တက္ကသိုလ်နှင့် ပညာရေးဌာနများသို့ ဥရောပရှိကျောင်းသားများ လာရောက်ပညာသင်ယူဆည်းပူးခဲ့ကြသည်။ ထိုအချိန်တွင် ဥရောပသည် အလယ်ခေတ်၏ အသိပညာမဲ့မှု အမိုက်မှောင်ထဲတွင် ရှိနေဆဲဖြစ်သည်။

ထို့ကြောင့် ဘုရင်အဗ္ဗဒွရ်ရဟ်မားန်စာလိစ်၏ခေတ်သည် စပိန်အိုမိုင်ယာနိုင်ငံ၏ ဩဇာအာဏာ အထွတ်အထိပ်သို့ ရောက်ခဲ့သည့်ခေတ်ဖြစ်သည်။ တိုင်းပြည်၏နှစ်စဉ်ဝင်ငွေမှာ ရွှေဒင်္ဂါး (၇) သန်းဖြစ်သည်။ စစ်သည်အင်အား (၁) သိန်းအထိရှိခဲ့သည်။

နှစ်ပေါင်း (၅၀) ခန့်အုပ်ချုပ်ပြီး ဟိဂျ်ရီ (၃၅၀) ခုနှစ်၊ ခရစ်နှစ် (၉၆၁) ခုနှစ်တွင် ဘုရင် အဗ္ဗဒွရ်ရဟ်မားန်စာလိစ် ကွယ်လွန်ခဲ့သည်။

## ဟာကမ်ဗင်န်အဗ္ဗဒ္ဒရ်ရဟ်မားန် (ဟိဂျ်ရီ ၃၅၀ - ၃၆၆)

ဖခင်အဗ္ဗဒ္ဒရ်ရဟ်မားန်စာလိစ်ကွယ်လွန်ပြီးနောက် သားဖြစ်သူ ဟာကမ် ဘုရင်ဖြစ်လာခဲ့သည်။ ပညာရှင်ဘုရင်တစ်ဦးဖြစ်ပြီး စာအုပ်စာပေစုဆောင်းရေးနှင့် ဖြန့်ချိရေးကို အလေးထားဆောင်ရွက်ခဲ့သည်။ ဘုရင်ဟာကမ်၏ စာကြည့်တိုက်တွင် စုဆောင်းထားသော စာအုပ်ပေါင်း (၄) သိန်းအထိ ရှိခဲ့သည်။ ကော်ဒိုဗာတက္ကသိုလ်သည်လည်း ပိုမိုတိုးတက်ခဲ့သည်။ ဖခင်လက်ထက်တွင် တည်ဆောက်ခဲ့သော ဇဟ်ရာ့အ်နန်းမြို့တော်ကို အပြီးသတ်ဆောက်လုပ်ခဲ့သည်။

နော်မန်လူမျိုးတို့၏ ကျူးကျော်တိုက်ခိုက်မှုကို ကာကွယ်တားဆီးနိုင်ခဲ့သည်။ မြောက်ဘက်ရှိ ခရစ်ယာန်ဘုရင်တို့၏ ကျူးကျော်မှုကိုလည်း ဟန့်တားနိုင်ခဲ့သည်။ လူတိုင်းစာတက်မြောက်ရေးအတွက် စာသင်ကျောင်းများ ထပ်မံတိုးချဲ့ဖွင့်လှစ်ခဲ့သည်။ တိုင်းပြည်ရေးရာကိစ္စရပ်များနှင့်ပတ်သတ်ပြီး တိုင်ပင်ဆွေးနွေးနိုင်ရန်အတွက် ပညာရှင်များပါဝင်သည့် ကော်မတီတစ်ရပ်ကို ဖွဲ့စည်းခဲ့သည်။ ပညာရှင်တိုင်းအတွက် ထောက်ပံ့ကြေးများ သတ်မှတ်ပေးခဲ့သည်။ ဖခင်ဖြစ်သူလက်ထက်တွင် ဖြစ်ထွန်းခဲ့သည့် ဖွံ့ဖြိုးတိုးတက်မှုများကို ဆက်လက်ထိန်းသိမ်းထားနိုင်ခဲ့သည်။

ဟိဂျ်ရီ (၃၆၆) ခုနှစ်၊ ခရစ်နှစ် (၉၇၆) ခုနှစ်တွင် ဘုရင်ဟာကမ် ကွယ်လွန်ခဲ့သည်။

## စပိန်အိုမိုင်ယာမင်းဆက်အင်အားချိနဲ့လာခြင်းနှင့် ပြိုကွဲခြင်း

## (ဟိဂျ်ရီ ၃၆၆ - ၄၁၇)

ဘုရင်ဟာကမ်ကွယ်လွန်ပြီးနောက် ခေါင်းဆောင်မှုအရည်အချင်း မပြည့်မီသောဘုရင်များ နန်းတက်လာခဲ့သည်။ ထိုဘုရင်များသည် တိုင်းပြည်အုပ်ချုပ်ရေးကို ဝန်ကြီးများထံ လွှဲအပ်ထားခဲ့ကြသည်။ ထိုအခါ ဝန်ကြီးများက စိတ်ကြိုက်ချယ်လှယ်လာကြသည်။ တိုင်းပြည်ရေးရာအခြေအနေမှန်များကို ဘုရင်မသိအောင် ဖုံးကွယ်ထားကြသည်။ ထိုအခါ ဘုရင်တို့၏ အရှိန်အဝါကျဆင်းလာပြီး ပြည်သူတို့၏ အမြင်မကြည်မှုများ တဖြည်းဖြည်း ပိုမိုတိုးပွားလာခဲ့သည်။ ဝန်ကြီးများနှင့် အင်အားကောင်းသောမျိုးနွယ်များက နန်းတော်တွင် ချယ်လှယ်နေကြပြီး အိုမိုင်ယာမျိုးနွယ်ဝင်များသည်လည်း စည်းလုံးမှုပျက်ပြားနေပြီဖြစ်သည်။ ထိုအခြေအနေမှတဆင့် ဟိဂျ်ရီ (၄၁၇) ခုနှစ်၊ ခရစ်နှစ် (၁၀၂၅) ခုနှစ်တွင် စပိန်အိုမိုင်ယာနိုင်ငံ ပြိုကွဲသွားခဲ့သည်။

ဘုရင်ဟာကမ်ကွယ်လွန်ပြီး ဟိဂျ်ရီ (၃၆၆) ခုနှစ်၊ ခရစ်နှစ် (၉၇၆) ခုနှစ်မှစ၍ စပိန်အိုမိုင်ယာနိုင်ငံ ပြိုကွဲသည့် ဟိဂျ်ရီ (၄၁၇) ခုနှစ်၊ ခရစ်နှစ် (၁၀၂၅) ခုနှစ်အထိကာလအတွင်း ဘုရင် (၇) ဦး အုပ်ချုပ်ခဲ့သည်။ ထိုဘုရင်များမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁၀) ဟေရှားမ် (ဟိဂျ်ရီ ၃၆၆ - ၃၉၉)

(၁၁) မုဟမ္မဒ် (ဟိဂျ်ရီ ၃၉၉ - ၄၀၀)

(၁၂) ဆိုလိုင်မာန် (ဟိဂျ်ရီ ၄၀၀ - ၄၀၀)

(၁၃) ဟေရှားမ် (ဒုတိယအကြိမ်ပြန်လည်အုပ်ချုပ်ခြင်း) (ဟိဂျ်ရီ ၄၀၀ - ၄၀၃)

(၁၄) ဆိုလိုင်မာန် (ဒုတိယအကြိမ်ပြန်လည်အုပ်ချုပ်ခြင်း) (ဟိဂျ်ရီ ၄၀၃ - ၄၀၇)

(၁၅) အဗ္ဗဒွရ်ရဟ်မားန်မုရ်သဇီ (ဟိဂျ်ရီ ၄၀၈ - ၄၀၉)
(၁၆) အဗ္ဗဒွရ်ရဟ်မားန်မွစ်သဇ်ဟိရ် (ဟိဂျ်ရီ ၄၁၄ - ၄၁၄)
(၁၇) မုဟမ္မဒ် (ဟိဂျ်ရီ ၄၁၄ - ၄၁၆)
(၁၈)ဟေရှားမ် (ဟိဂျ်ရီ ၄၁၈ - ၄၂၂)

## မျိုးနွယ်စုဘုရင်များအုပ်ချုပ်သည့် စပိန်မြို့ပြနိုင်ငံများခေတ်

စပိန်အိုမိုင်ယာနိုင်ငံ ပြိုကွဲပြီးနောက် မျိုးနွယ်စုဘုရင်များ အုပ်ချုပ်သည့် မြို့ပြနိုင်ငံငယ် (၂၂) ခု ပေါ်ပေါက်လာခဲ့သည်။ ယခင် အိုမိုင်ယာနိုင်ငံကဲ့သို့ အင်အားစုတစ်ခုအနေနှင့်မရှိတော့ဘဲ သီးခြားရပ်တည်သည့် မြို့ပြနိုင်ငံငယ်များအဖြစ် ရောက်ရှိသွားခဲ့ပြီ ဖြစ်သည်။ ထိုအခါ စပိန်မြောက်ပိုင်းရှိ ခရစ်ယာန်မြို့ပြနိုင်ငံများက အင်အားစုစည်းပြီး ကျူးကျော်လာခဲ့ကြသည်။ ထို့ကြောင့် ဆီဗီလာ မြို့ပြနိုင်ငံ၏ဘုရင် မုအ်သမိဒ်က မော်ရိုကိုနိုင်ငံကို အုပ်ချုပ်နေသော မိုရာဘေသူးန်များထံ စစ်ကူတောင်းခဲ့သည်။ မိုရာဘေသူးန်စစ်တပ်များ စပိန်သို့ရောက်ရှိလာပြီး ခရစ်ယာန်စစ်တပ်များကို ရင်ဆိုင်တိုက်ခိုက်ရာ တွင် အကူအညီပေးခဲ့ကြသည်။ ဟိဂျ်ရီ (၄၇၉) ခုနှစ်၊ ခရစ်နှစ် (၁၀၈၆) ခုနှစ်တွင် ဇလာကာအရပ်တွင် ခရစ်ယာန်တပ်ပေါင်းစုနှင့် မိုရာဘေသူးန် စပိန်အရဗ်ပူးပေါင်းတပ်များအကြား ပြင်းထန်သောစစ်ပွဲကြီး ဖြစ်ပွားခဲ့ သည်။ ထိုစစ်ပွဲတွင် အရဗ်တို့အနိုင်ရရှိခဲ့ပြီး စပိန်ဒေသတွင် ဆက်လက် ရပ်တည်နိုင်ခဲ့သည်။

ထို့နောက် ယခင်အတိုင်းမြို့ပြနိုင်ငံများအဖြစ် ဆက်လက် ရပ်တည်ခဲ့ကြသည်။ မော်ရိုကိုနိုင်ငံကို အုပ်ချုပ်နေသော မုရာဘေသူးန် များအကြား စည်းလုံးမှုပြိုကွဲပြီး အင်အားကျဆင်းလာခဲ့သည်။ စပိန် မြောက်ပိုင်းရှိ ခရစ်ယာန်မြို့ပြနိုင်ငံများက ထိုအခွင့်အရေးကို အသုံးချ

ပြီး အင်အားပြန်လည်စုစည်းကာ တောင်ပိုင်းစပိန်အရဗ်မြို့ပြနိုင်ငံများကို တိုက်ခိုက်ခဲ့သည်။ အရဗ်မြို့ပြနိုင်ငံအများစု ခရစ်ယာန်တို့လက်အောက်သို့ ကျရောက်သွားခဲ့သည်။ ကော်ဒိုဗာမြို့ပြနိုင်ငံသည် ဟိဂျ်ရီ (၆၃၄) ခုနှစ်၊ ခရစ်နှစ် (၁၂၃၆) ခုနှစ် ဆီဗီလာမြို့ပြနိုင်ငံသည် ခရစ်နှစ် (၁၂၄၈) ခုနှစ်တွင် ခရစ်ယာန်တို့လက်အောက်သို့ ကျရောက်ခဲ့သည်။

နောက်ဆုံးတွင် ဂရာနာဒါးမြို့ပြနိုင်ငံတစ်ခုသာ အရဗ်မွတ်စ်လင်မ်တို့၏ အုပ်ချုပ်မှုအောက်တွင် ကျန်ရှိတော့သည်။ ထိုမြို့ပြနိုင်ငံကို ဗနူအဟ်မရ်မျိုးနွယ်စုက အုပ်ချုပ်ခဲ့သည်။ ဗနူအဟ်မရ် မျိုးနွယ်၏ အုပ်ချုပ်မှုအောက်တွင် ဂရာနာဒါးမြို့ပြနိုင်ငံသည် အင်အားတောင့်တင်းပြီး ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ ယနေ့အချိန်အထိ ကျန်ရှိနေဆဲနာမည်ကျော်အရဗ်ဗိသုကာလက်ရာများကို တည်ဆောက်ခဲ့သည်။ ထိုလက်ရာများအနက် ဟမ်ရာ့အ်နန်းတော်မှာ အကျော်ကြားဆုံးဖြစ်သည်။ ဟိဂျ်ရီ (၆၃၀) ခုနှစ်၊ ခရစ်နှစ် (၁၂၃၂) ခုနှစ်တွင် ဗနူအဟ်မရ်မျိုးနွယ်များ စတင်တည်ထောင်ခဲ့သော ဂရာနာဒါးမြို့ပြနိုင်ငံသည် ရာစုနှစ်နှစ်ခုကျော် တည်တံ့ခဲ့သည်။ ဟိဂျ်ရီ (၈၈၇) ခုနှစ်၊ ခရစ်နှစ် (၁၄၉၂) ခုနှစ်တွင် ဂရာနာဒါးမြို့ပြနိုင်ငံလည်း ခရစ်ယာန်နိုင်ငံများလက်အောက်သို့ ကျရောက်သွားပြီး ခရစ်ယာန်တို့၏ ဖိနှိပ်ချေမှုန်းမှုကြောင့် အရဗ်တို့လည်း စပိန်မြေမှ အပြီးတိုင်ထွက်ခွာခဲ့ရသည်။

## စပိန်အိုမိုင်ယာနိုင်ငံနှင့်စပိန်မြို့ပြနိုင်ငံများခေတ် လုပ်ဆောင်ချက်များ

စပိန်နိုင်ငံကိုအုပ်ချုပ်ခဲ့သောအရဗ်ဘုရင်တို့သည် သာသနာ့ပညာရပ်များကိုသာမက အရဗီစာပေ၊ ကဗျာနှင့် သမိုင်းစသည့်ပညာရပ်များကို အားပေးပံ့ပိုးကူညီခဲ့ကြသည်။ ထို့ကြောင့် ထိုပညာရပ်

များတွင် နာမည်ကျော်ပညာရှင်များစွာ ပေါ်ပေါက်ခဲ့သည်။ စပိန်ဘုရင်တို့သည် အနယ်နယ်အရပ်ရပ်မှ ပညာရှင်များကို ပင့်ဖိတ်ပြီး အားပေးထောက်ပံ့ခဲ့သည်။ ဆေးသိပ္ပံပညာရပ်တွင် နာမည်ကျော်အရဗ်သမားတော်များစွာ ပေါ်ထွန်းခဲ့သည်။ ခေတ်သစ်ခွဲစိတ်ကုသမှုဖခင်ကြီးဟု ကင်ပွန်းတပ်ခံထားရသည့် အဗွလ်ကာစင်မ်ဇဟ်ရာဝီကဲ့သို့ ပုဂ္ဂိုလ်များ ပေါ်ထွန်းခဲ့သည်။ ထိုပုဂ္ဂိုလ်၏ ခွဲစိတ်ကုထုံးကျမ်းသည် အလယ်ခေတ်ဥရောပ၏ လက်စွဲကျမ်းဖြစ်ခဲ့သည်။

ထို့အတူ သင်္ချာနှင့်နက္ခတ္တဗေဒပညာရပ်များတွင်လည်း နာမည်ကျော်ပညာရှင်များစွာ ပေါ်ထွန်းခဲ့သည်။ မက်စ်လမာမဂ်ျရီသို့ကဂရိပညာရှင်တော်လမီ၏ သင်္ချာနှင့်နက္ခတ္တဗေဒကျမ်းများကို လေ့လာပြီး ဆက်လက်တိုးချဲ့သုတေသနပြုခဲ့သည်။ နာမည်ကျော် အဗ္ဗာစီယာခေတ်သင်္ချာနှင့် နက္ခတ္တဗေဒပညာရှင် ခဝါရိဇ်မီ၏သီအိုရီများကိုလည်း သုတေသနပြု လေ့လာခဲ့သည်။ ဓာတုဗေဒပညာရပ်တွင်လည်း အရဗ်ပညာရှင်များသည် လက်တွေ့စမ်းသပ်မှုကိုအခြေခံသော ရှာဖွေတွေ့ရှိချက်များစွာ ဖော်ထုတ်တင်ပြနိုင်ခဲ့သည်။

စပိန်အရဗ်ခေတ်၏ အတွေးအခေါ်၊ ပညာရေးနှင့် ယဉ်ကျေးမှုဖွံ့ဖြိုးတိုးတက်ခြင်းသည် ဥရောပနိုင်ငံများအပေါ် များစွာအကျိုးသက်ရောက်ခဲ့သည်။ ကော်ဒိုဗာမြို့သည် ဥရောပကျောင်းသားများ လာရောက်ပညာသင်ယူခဲ့ရသည့် ပညာမြို့တော်ဖြစ်ခဲ့သည်။ စာအုပ်ပေါင်းများစွာ စုစည်းထားသည့် စာကြည့်တိုက်ကြီးများကို နေရာအနှံ့တွေ့ရမည်ဖြစ်သည်။ အရဗီဘာသာစကားသည် ပညာရပ်ဆိုင်ရာဘာသာစကားတစ်ခုဖြစ်ခဲ့သည်။ စပိန်အိုမိုင်ယာနိုင်ငံပြိုကွဲပြီး မျိုးနွယ်စုမြို့ပြနိုင်ငံများ ပေါ်ပေါက်လာသည့် ခေတ်ကာလတွင်လည်း အထက်ပါတိုးတက်မှုများသည် မရပ်တန့်သွားခဲ့ပါ။

ထိုကဲ့သို့ သိပ္ပံခေတ်အစပြုရန် နိဒါန်းပျိုးပေးခဲ့သော စပိန်အရဗ်ခေတ်သည် စည်းလုံးမှုပြိုကွဲခြင်းနှင့် အာဏာမက်ခြင်းကြောင့် ပြိုကွဲပျက်စီးခဲ့ရသည်။

# အခန်း ၂။ မော်ရိုကိုနိုင်ငံ

အဗ္ဗာစီယာအင်ပါယာခေတ်တွင် အဗ္ဗာစီယာဘုရင်များ၏ အုပ်ချုပ်မှုအောက်မှ ခွဲထွက်ပြီး ကိုယ်ပိုင်အုပ်ချုပ်မှုအာဏာ တည်ထောင်နိုင်ခဲ့သော မင်းဆက်များ မော်ရိုကိုဒေသတွင် ပေါ်ပေါက်ခဲ့သည်။ မော်ရိုကိုအခြေစိုက် ထိုမျိုးနွယ်စုဘုရင်များ အုပ်ချုပ်သောခေတ် (၃) ခေတ်မှာ အောက်ပါအတိုင်းဖြစ် သည်။

အဒါရေစာခေတ် (ဟိဂျ်ရီ ၁၇၂ - ၃၃၂)
မိုရာဘေသူးန်ခေတ် (ဟိဂျ်ရီ ၄၆၂ - ၅၄၁)
မိုဝဟ်ဟေဒီးန်ခေတ် (ဟိဂျ်ရီ ၅၄၁ - ၆၆၈)

## အဒါရေစာခေတ် (ဟိဂျ်ရီ ၁၇၂ - ၃၇၅)

စတုတ္ထခလီဖာကြီးအလီ ﵁ ၏ အဆက်အနွယ်ဖြစ်သည့် အိဒ်ရီးစ်နှင့် သူ၏သားစဉ်မြေးဆက် အုပ်ချုပ်ခဲ့သည့်ခေတ်ဖြစ်သည်။ အိဒ်ရီးစ်သည် အဗ္ဗာစီယာဘုရင် ဟာရူးန်ရရှီးဒ်ကို တော်လှန်ပုန်ကန်ပြီး မော်ရိုကိုဒေသသို့ ထွက်ပြေးတိမ်းရှောင်လာခဲ့သည်။ မော်ရိုကိုတွင် ဒေသခံဘာဘရီလူမျိုးစုများ၏ ထောက်ခံမှုကို ရယူနိုင်ခဲ့ပြီး ကိုယ်ပိုင်အုပ်ချုပ်မှုအာဏာ တည်ထောင်နိုင်ခဲ့သည်။ တရားမျှတမှုကို လက်ကိုင်ပြုပြီး ရှရီအသ်ဥပဒေနှင့်အညီ အုပ်ချုပ်ကာ မတရားသတ်မှတ်ကောက်ခံသည့် အခွန်အခများကို ပယ်ဖျက်ပေးခဲ့ခြင်းကြောင့် ဒေသခံ

မျိုးနွယ်စုတို့၏ထောက်ခံမှုကို အပြည့်အဝရရှိခဲ့ခြင်းဖြစ်သည်။ ထို့ကြောင့် ဘုရင်အိဒ်ရီးစ်သည် မော်ရိုကိုဒေသအခြေစိုက် အဒါရေစာနိုင်ငံကို ခိုင်မာစွာတည်ထောင်နိုင်ခဲ့သည်။

အဒါရေစာတို့သည် မော်ရိုကိုနိုင်ငံမှ နာမည်ကျော်ဖားစ်မြို့တော်ကို တည်ထောင်ခဲ့သူများ ဖြစ်သည်။ ဖားစ်မြို့တော်သည် မော်ရိုကိုဒေသ၏ ဗိသုကာလက်ရာများနှင့် အစ္စလာမ့်ယဉ်ကျေးမှု အခြေစိုက်ရာ အချက်အချာနေရာတစ်ခုဖြစ်ခဲ့သည်။ အဒါရေစာတို့သည် ဘာဘရီ မျိုးနွယ်စုများအတွင်း အစ္စလာမ်သာသနာကို အခြေခိုင်အောင် ဆောင်ရွက်နိုင်ခဲ့ကြသည်။ အရဗီဘာသာစကားလည်း တွင်ကျယ်ပြန့်နှံ့ခဲ့သည်။ ယနေ့အချိန်အထိ တည်ရှိနေဆဲဖြစ်သော နာမည်ကျော်ကရ်ဝီယီးန်ဗလီနှင့် တက္ကသိုလ်ကြီးသည် အဒါရေစာဘုရင်များလက်ထက်တွင် တည်ဆောက်ခဲ့ခြင်းဖြစ်သည်။ အဒါရေစာတို့သည် အစ္စလာမ့်ယဉ်ကျေးမှုထိန်းသိမ်းဖြန့်ချိရေးအတွက် များစွာကြိုးပမ်းဆောင်ရွက်ခဲ့ကြသည်။

ပညာရေးနှင့် ယဉ်ကျေးမှုအနုပညာကဏ္ဍတွင် ဖားစ်မြို့တော်သည် ဘဂ္ဂဒါးဒ်မြို့တော်၊ ကော်ဒိုဗာမြို့တော်တို့နှင့်အပြိုင် နာမည်ကျော်မြို့တော်ကြီးဖြစ်ခဲ့သည်။ စီးပွားရေးလည်း များစွာဖွံ့ဖြိုးတိုးတက်ခဲ့သည်။ အဒါရေစာခေတ်တွင် ဘုရင် (၉) ဦးအုပ်ချုပ်ခဲ့သည်။ အဒါရေစာမင်းဆက်သည် နှစ်ပေါင်း (၂၀၀) နီးပါးခန့် တည်တံ့ခဲ့ပြီးနောက် စပိန်အိုမိုင်ယာနိုင်ငံနှင့် အီဂျစ်ဖာသွေမီယာနိုင်ငံတို့၏ တိုက်ခိုက်မှုကြောင့် အဆုံးသတ်သွားခဲ့သည်။

## မိုရာဘေသူးန်ခေတ် (ဟိဂျ်ရီ ၄၆၂ - ၅၄၁)

ဘာဘာရီနွယ်ဝင် မျိုးနွယ်စုတစ်စုဖြစ်သည်။ ထိုမျိုးနွယ်သည် သမိုင်းဝင်နာမည်ကျော်ခေါင်းဆောင်တစ်ဦးဖြစ်သည့် ယူစွဖ်ဗင်န် သာရှဖီးန်၏ ခေါင်းဆောင်မှုအောက်တွင် စည်းလုံးညီညွတ်ပြီး စစ်အင်အားကောင်းလာခဲ့သည်။ ယူစွဖ်ဗင်န်သာရှဖီးန်သည် မော်ရိုကိုနိုင်ငံကို သိမ်းပိုက်နိုင်ခဲ့ပြီး မရာကိရှ်မြို့တော်ကို တည်ထောင်ခဲ့သည်။ အနောက်အာဖရိက နိုင်ဂျာမြစ်အထိ မိုရာဘေသူးန်များ၏ အာဏာသက်ရောက်ခဲ့သည်။ စပိန်အိုမိုင်ယာနိုင်ငံကို ခရစ်ယာန်တပ်များတိုက်ခိုက်သည့်အခါ မိုရာဘေသူးန်တပ်များက စစ်ကူပေးခဲ့သည့်အတွက် စပိန်အိုမိုင်ယာနိုင်ငံ ဆက်လက်တည်တံ့နေခဲ့ခြင်းဖြစ်သည်။ ထို့အပြင် စပိန်ဒေသတွင်လည်း မိုရာဘေသူးန်တို့၏ ဩဇာအာဏာသက်ရောက်ခဲ့သည်။

ယူစွဖ်ဗင်န်သာရှဖီးန်လက်ထက်တွင် မော်ရိုကိုနိုင်ငံသည် ဖွံ့ဖြိုးတိုးတက်ပြီး တည်ငြိမ်အေးချမ်းခဲ့သည်။ မိုရာဘေသူးန်များလက်ထက်တွင် အရဗီစာပေနှင့် ကဗျာကဏ္ဍ များစွာတိုးတက်ခဲ့သည်။ စပိန်ဗိသုကာလက်ရာများကို အခြေခံတည်ဆောက်ထားသော မော်ရိုကိုဗိသုကာလက်ရာများကို တီထွင်ဖန်တီးနိုင်ခဲ့သည်။ ဆေးပညာနှင့် နက္ခတ္တဗေဒပညာရပ်များလည်း တိုးတက်ခဲ့သည်။ အနောက်အာဖရိကတွင် အစ္စလာမ်သာသနာ ပိုမိုပြန့်နှံ့လာခဲ့သည်။

ဟိဂျ်ရီ (၅၄၁) ခုနှစ်တွင် မိုဝဟ်ဟေဒီးန်များ၏ တိုက်ခိုက်သိမ်းပိုက်မှုကြောင့် မိုရာဘေသူးန်တို့၏ အုပ်ချုပ်မှုကာလ အဆုံးသတ်သွားခဲ့သည်။ မိုရာဘေသူးန်ခေတ်တွင် ဘုရင် (၈) ဦးအုပ်ချုပ်ခဲ့သည်။

## မိုဝဟ်ဟေဒီးန်ခေတ် (ဟိဂျ်ရီ ၅၄၁ - ၆၆၈)

မုဟမ္မဒ်ဗင်န်သူမရည်၏ သောင်ဟီးဒ်တရားစစ်တရားမှန်ဘက်သို့ ဖိတ်ခေါ်သည့်လှုပ်ရှားမှုကို အခြေခံပြီး ပေါ်ပေါက်လာခဲ့သည့် မင်းဆက်တစ်ဆက်ဖြစ်သည်။ သူ၏လှုပ်ရှားမှုကို ဘာဘရီလူမျိုးစုများက ထောက်ခံခဲ့သောကြောင့် မုဟမ္မဒ်ဗင်န်သူမရည်၏အုပ်စု အင်အားတောင့်တင်းလာခဲ့သည်။ ထိုလှုပ်ရှားမှုကို အုပ်ချုပ်သူ မိုရာဘေသူးန်များက နှိမ်နင်းရန်ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ပါ။ မုဟမ္မဒ်ဗင်န်သူမရည်ကိုဆက်ခံသော အဗ္ဗဒွလ်မုအ်မင်န်လက်ထက်တွင် မိုဝဟ်ဟေဒီးန်များ ပိုမိုအင်အားတောင့်တင်းလာပြီး မိုရာဘေသူးန်များကို တိုက်ခိုက်ဖြုတ်ချကာ မိုဝဟ်ဟေဒီးန်ခေတ်ကို စတင်ထူထောင်ခဲ့သည်။

အဗ္ဗဒွလ်မုအ်မင်န်သည် မော်ရိုကိုဒေသတွင် အုပ်ချုပ်မှုအာဏာရယူနိုင်ခဲ့ပြီးနောက် နိုင်ငံကို စနစ်တကျစီမံအုပ်ချုပ်နိုင်ခဲ့သည်။ မိုဝဟ်ဟေဒီးန်များခေတ်တွင်လည်း စပိန်အရပ်နိုင်ငံကို ခရစ်ယာန်များ၏ တိုက်ခိုက်မှုမှ ကာကွယ်ပေးခဲ့သည်။ စပိန်ဒေသတွင် ဩဇာအာဏာဖြန့်ကျက်နိုင်ခဲ့သည်။ ကြံစိုက်ပျိုးမှု အထူးတိုးတက်ခဲ့ပြီး မော်ရိုကိုဒေသထွက်သကြားများသည် နေရာအသီးသီးတွင် ရောင်းအားကောင်းခဲ့သည်။ သတ္တုတွင်းလုပ်ငန်းလည်း ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ ကူးသန်းရောင်းဝယ်ရေးနှင့် လယ်ယာစိုက်ပျိုးရေးလည်း တိုးတက်ခဲ့သည်။

ယနေ့အချိန်အထိ စပိန်အငွေ့အသက်လွှမ်းသော မိုဝဟ်ဟေဒီးန်ခေတ် ဗိသုကာလက်ရာများစွာ ရှိနေဆဲဖြစ်သည်။ ဒဿနိကဗေဒပညာရပ် များစွာတိုးတက်ခဲ့ပြီး အိဗ်နေ့ရှုဒ်က ဂရိပညာရှင်အရစ္စတိုတယ်၏ ကျမ်းများကို အရဗီဘာသာသို့ပြန်ဆိုခဲ့သည်။ နာမည်ကျော်ဒဿနပညာရှင် အိဗ်နေ့သိုဖိုင်းလ် ပေါ်ထွန်းခဲ့သည်။

မိုဝဟ်ဟေဒီးန်များအုပ်ချုပ်သည့် နယ်မြေအသီးသီးကို အခြား မျိုးနွယ်စုများက တိုက်ခိုက်သိမ်းပိုက်ခြင်းကြောင့် နှစ်ပေါင်း (၁၀၀) ကျော် တည်တံ့ပြီးနောက် ဟိဂျ်ရီ (၆၆၈) ခုနှစ်တွင် မိုဝဟ်ဟေဒီးန် မင်းဆက်အဆုံးသတ်သွားခဲ့သည်။ မိုဝဟ်ဟေဒီးန်ခေတ်တွင် ဘုရင် (၁၃) ဦးအုပ်ချုပ်ခဲ့သည်။

# အခန်း ၃။ အာဖရိကမြောက်ပိုင်းဒေသ

**အဂါလေဗာခေတ် (ဟိဂျ်ရီ ၁၈၄ - ၂၉၆)**

အာဖရိမြောက်ပိုင်းဒေသ တည်ငြိမ်အေးချမ်းရေးအတွက် အဗ္ဗာစီယာဘုရင်ဟာရူးန်ရရှီးဒ်သည် အိဗ်ရာဟီးမ်ဗင်န်အဂ်လဗ်ကို ခေါင်းဆောင်အဖြစ်ခန့်အပ်ပြီး စစ်တပ်တစ်တပ်ကို စေလွှတ်ခဲ့သည်။ အာဖရိကမြောက်ပိုင်းဒေသရှိ ပုန်ကန်ထကြွမှုများကို ငြိမ်ဝပ်ပိပြား အောင်ဆောင်ရွက်ပြီးနောက် အိဗ်ရာဟီးမ်သည် အုပ်ချုပ်သူဖြစ်လာခဲ့ သည်။ ထို့နောက် တူနီးရှားဒေသကို အခြေပြု၍ သီးသန့်နိုင်ငံ တည်ထောင်ပြီးနောက်တွင် အဂါလေဗာအုပ်ချုပ်မှုခေတ် စတင်ခဲ့သည်။

တရားမျှတသည့် အုပ်ချုပ်ရေးစနစ်ကို ကျင့်သုံးသောကြောင့် ယခင်ပုန်ကန်ထကြွခဲ့သော ဘာဘရီမျိုးနွယ်စုများသည် အိဗ်ရာဟီးမ်၏ အုပ်ချုပ်မှုကိုလက်ခံခဲ့ကြသည်။ အိဗ်ရာဟီးမ်းသည် ကိုင်ရဝန်မြို့တွင် အခြေချပြီးနောက် အုပ်ချုပ်ရေးအခြေခိုင်အောင် ဆောင်ရွက်ခဲ့သည်။ ရောမရေတပ်ကို ဟန့်တားနိုင်ရန်အတွက် အင်အားတောင့်တင်းသော ရေတပ်ကို ဖွဲ့စည်းတည်ထောင်ခဲ့သည်။ အဂါလေဗာဘုရင် ဇေယာ

ဒသ္ဂလ္လာဟ်လက်ထက်တွင် ဆိုက်ပရပ်စ်ကျွန်းနှင့် မာလတာကျွန်းတို့ကို အောင်နိုင်ခဲ့သည်။

အဂါလေဗာခေတ်တွင် နာမည်ကျော်ဖေကာဟ်ပညာရှင်များ ပေါ်ထွန်းခဲ့သည်။ အရှေ့တိုင်းမှ ရောက်ရှိလာသော နာမည်ကျော် ဆရာဝန်များစွာလည်း အခြေချနေထိုင်ခဲ့သည်။ သာသနာ့ပညာ၊ ခေတ်ပညာနှင့် အတွေးအခေါ်ဒဿနပညာရပ်များ တိုးတက်ခဲ့သည်။ ယနေ့အချိန်အထိ တည်ရှိနေဆဲဖြစ်သည့် နာမည်ကျော်ဇိုင်သူနာ တက္ကသိုလ်ကို တည်ထောင်ခဲ့သည်။ အဂါလေဗာတို့သည် မြို့တော် ကိုင်ရဝန်ကို ပိုမိုခမ်းနားထည်ဝါအောင် တိုးချဲ့တည်ဆောက်ခဲ့သည်။ အဗ္ဗာစီယာနှင့်ရိုကာဒါအမည်ရ မြို့တော် အသစ် (၂) မြို့ကိုလည်း တည်ဆောက်ခဲ့သည်။ ရေလှောင်ကန်အမြောက်အများကိုလည်း တည် ဆောက်ခဲ့သည်။ ထို့ကြောင့် စိုက်ပျိုးရေး ပိုမိုဖွံ့ဖြိုးတိုးတက်ခဲ့သည်။

နှစ်ပေါင်း (၁၀၀) ကျော် တည်တံ့ခဲ့ပြီးနောက် ဖွာသွေမီယာတို့၏ တိုက်ခိုက်သိမ်းပိုက်မှုကြောင့် ဟိဂျ်ရီ (၂၉၆) ခုနှစ်တွင် အဂါလေဗာ အုပ်ချုပ်မှုခေတ်ကုန်ဆုံးသွားခဲ့သည်။ အဂါလေဗာခေတ်တွင် ဘုရင် (၁၁) ဦးအုပ်ချုပ်ခဲ့သည်။

# အခန်း ၄။ အီဂျစ်နိုင်ငံ

## သူလူနီယာခေတ် (ဟိဂျ်ရီ၂၅၄ - ၂၉၃)

အဟ်မဒ်ဗင်န်သူလူးန် တည်ထောင်ခဲ့သော အီဂျစ်နိုင်ငံအခြေ စိုက် မင်းဆက်ဖြစ်သည်။ ဟိဂျ်ရီ (၂၅၄) ခုနှစ်တွင် အဗ္ဗာစီယာဘုရင်က ဘာယက်ဘာအမည်ရှိပုဂ္ဂိုလ်ကို အီဂျစ်ဒေသအုပ်ချုပ်ရေးမှူးအဖြစ် ခန့်

အပ်ခဲ့သည်။ ဘာယက်ဘာက ကိုယ်တိုင်အုပ်ချုပ်ခြင်းမပြုဘဲ မယားပါသားဖြစ်သူ အဟ်မဒ်ဗင်န်သူလူးန်ကို မိမိ၏ ကိုယ်စားလှယ်အဖြစ်ခန့်အပ်ပြီး အုပ်ချုပ်စေခဲ့သည်။ အဟ်မဒ်သည် အီဂျစ်ဒေသကို တရားမျှတစွာအုပ်ချုပ်သောကြောင့် အီဂျစ်ပြည်သူတို့၏ယုံကြည် ထောက်ခံမှုကို အပြည့်အဝရယူနိုင်ခဲ့သည်။ အုပ်ချုပ်ရေးကို အခြေခိုင်အောင်ပြုလုပ်ပြီးနောက် အဟ်မဒ်သည် အင်အားကြီးမားသော စစ်တပ်တစ်တပ်ကို တည်ထောင်ခဲ့သည်။

ထို့နောက်အဟ်မဒ်သည် ရှာမ်ဒေသကို တိုက်ခိုက်သိမ်းပိုက်ကာ သီးသန့်နိုင်ငံတည်ထောင်ပြီး အဗ္ဗာစီယာအင်ပါယာလက်အောက်မှ ခွဲထွက်ခဲ့သည်။ ကဿာအေ့အ် အမည်ရမြို့တော်ကို တည်ထောင်ပြီး နန်းစိုက်ခဲ့သည်။ အီဂျစ်နှင့်ရှာမ်ဒေသသည် ဖွံ့ဖြိုးတိုးတက်ပြီး တည်ငြိမ်အေးချမ်းခဲ့သည်။ နာမည်ကျော် အိဗ်နေ့သူလူးန်ဗလီကျောင်းတော်နှင့် မျှော်စင်မှာ ယနေ့အချိန်အထိ ကျန်ရှိနေဆဲ သူလူနီယာခေတ်ဗိသုကာလက်ရာတစ်ခုဖြစ်သည်။ အဗ္ဗာစီယာအုပ်ချုပ်ရေးမှူးလက်ထက်တွင် ကျဆင်းခဲ့သော စီးပွားရေးကို ပြန်လည်ဦးမော့စေခဲ့သောကြောင့် ပြည်သူအများ၏ ထောက်ခံမှုကိုရရှိခဲ့သည်။ အထည်အလိပ်လုပ်ငန်းနှင့် လက်နက်ထုတ်လုပ်ရေးလုပ်ငန်းလည်း ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ ဆေးပညာရပ် အထူးတိုးတက်ခဲ့ပြီး စအီးဒ်ဗင်န်သရ်ဖီးလ်နှင့် စအီးဒ်ဗင်န်ဗိသ္ဗ်ရီးက်ကဲ့သို့ နာမည်ကျော်ဆေးပညာရှင်များ ပေါ်ထွန်းခဲ့သည်။ အီဂျစ်သမိုင်းဆိုင်ရာ အကိုးအကားရယူကြရသည့် ကျမ်းဂန်များလည်း ပေါ်ထွက်ခဲ့သည်။

အဟ်မဒ်ဗင်န်သူလူးန်အုပ်ချုပ်ခဲ့သော အီဂျစ်နှင့်ရှာမ်ဒေသသည် အဘက်ဘက်မှဖွံ့ဖြိုးတိုးတက်ပြီး သာယာအေးချမ်းခဲ့သည်။ သို့သော် အဟ်မဒ်ကို ဆက်ခံသောဘုရင်များသည် အဟ်မဒ်ကဲ့သို့ တိုင်းပြည်ကို နိုင်နင်းစွာ အုပ်ချုပ်နိုင်ခဲ့ခြင်းမရှိပေ။ ထို့ကြောင့် ဟိဂျ်ရီ (၂၉၃) ခုနှစ်တွင်

သူလူနီယာခေတ်ကုန်ဆုံးခဲ့ပြီး အီဂျစ်နှင့်ရှာမ်ဒေသသည် အဗ္ဗာစီယာ အင်ပါယာ၏ အုပ်ချုပ်မှုအောက်သို့ ပြန်လည်ရောက်ရှိသွားခဲ့သည်။ သူလူနီယာခေတ်တွင် ဘုရင် (၅) ဦးအုပ်ချုပ်ခဲ့သည်။

## အိခ်ရှီဒီယာခေတ် (ဟိဂျ်ရီ ၃၂၄ - ၃၅၈)

သူလူနီယာခေတ်ကုန်ဆုံးပြီးနောက် အီဂျစ်နှင့်ရှာမ်ဒေသသည် အဗ္ဗာစီယာအင်ပါယာ၏ အုပ်ချုပ်မှုအောက်သို့ ပြန်လည်ရောက်ရှိသွားခဲ့သည်။ ထိုကာလတွင် တိုင်းပြည်မငြိမ်မသက်ဖြစ်ခြင်းကြောင့် ပြည်သူတို့၏ အခြေအနေအရပ်ရပ် ဆိုးရွားနေခဲ့သည်။ ထိုအခါ အဗ္ဗာစီယာဘုရင်က မုဟမ္မဒ်ဗင်န်သွဂ်ဂ်ျအိခ်ရှီးဒ်ကို အီဂျစ်ဒေသအုပ်ချုပ်ရေးမှူး အဖြစ်ခန့်အပ်ခဲ့သည်။ ခေါင်းဆောင်မှုအရည်အချင်းပြည့်ဝသော အိခ်ရှီးဒ်သည် ဆိုးရွားနေသောအခြေအနေအရပ်ရပ်ကို အကောင်းဆုံး ထိန်းသိမ်းနိုင်ခဲ့ပြီး အီဂျစ်ဒေသကို ပြန်လည်တည်ငြိမ်အေးချမ်းအောင် စွမ်းဆောင်နိုင်ခဲ့သည်။

ထို့နောက် အင်အားကြီးမားသော စစ်တပ်တစ်တပ်ကို တည်ထောင်ပြီး ရှာမ်ဒေသကို သိမ်းပိုက်ခဲ့သည်။ ထို့နောက် ဟေဂျားဇ်ဒေသကိုပါ ဆက်လက်သိမ်းပိုက်ခဲ့သည်။ အိခ်ရှီးဒ်ကွယ်လွန်ပြီးနောက် ဆက်ခံသူသားနှစ်ဦးသည် ငယ်ရွယ်သောကြောင့် လူယုံတော် ကာဖူးရ်က တာဝန်ယူအုပ်ချုပ်ပေးခဲ့သည်။ ကာဖူးရ်၏ အုပ်ချုပ်မှုအောက်တွင်လည်း အီဂျစ်၊ ရှာမ်နှင့် ဟေဂျားဇ်ဒေသတို့သည် တည်ငြိမ်အေးချမ်းခဲ့သည်။

အိခ်ရှီဒီယာခေတ်တွင် လယ်ယာစိုက်ပျိုးရေးလုပ်ငန်း ပြန်လည်ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ ထို့အတူ ပိုးထည်လုပ်ငန်းလည်း တွင်ကျယ်ခဲ့သည်။ လက်နက်ထုတ်လုပ်ရေးနှင့် စက္ကူထုပ်လုပ်ရေးလည်း ကျယ်ပြန့်လာခဲ့သည်။ အီဂျစ်ဒေသသည် ကူးသန်းရောင်းဝယ်ရေးတွင် အချက်

အချာနေရာ ဖြစ်လာခဲ့သည်။ ဗလီများ၊ စာသင်ကျောင်းများနှင့် ဈေးများကိုလည်း တည်ဆောက်ခဲ့သည်။ ဖွတ်စ်သွားစ်မြို့ရှိ အမ်ရ်ဗင်န်အားဆွ် ဗလီကြီးသည် ပညာရေးဌာနချုပ်ဖြစ်ခဲ့သည်။ နာမည်ကျော်အရဗီစာပေ ပညာရှင် ဆေးဗွိုင်း ပေါ်ထွန်းခဲ့သည်။

ကာဖူးရ်ကွယ်လွန်ပြီးနောက် ဆက်ခံသူဘုရင်များ၏ အရည်အသွေးမပြည့်မီ၍ နိုင်ငံရေးအခြေအနေ မတည်မငြိမ်ဖြစ်ခဲ့ပြီး ဟိဂျ်ရီ (၃၅၈) ခုနှစ်တွင် ဖာသွေမီယာတို့၏ တိုက်ခိုက်သိမ်းပိုက်မှုကြောင့် အိခ်ရှီဒီယာခေတ် ကုန်ဆုံးခဲ့သည်။

## ဖွာသွေမီယာခေတ် (ဟိဂျ်ရီ ၂၉၆ - ၅၆၇)

ရှီအာအယ္ယူဝါဒကို ကိုင်စွဲထားသော ဖွာသွေမီယာမင်းဆက် အုပ်ချုပ်သည့် အင်ပါယာဖြစ်သည်။ ရှီအာခေါင်းဆောင်တစ်ဦးဖြစ်သည့် အဗူအဗ္ဗဒ္ဒလ္လာဟ်သည် ဘာဘာရီနွယ်ဝင် ကိုသာမဟ်မျိုးနွယ်စုကို ရှီအာအယ္ယူဝါဒဘက်သို့ ဖိတ်ခေါ်နိုင်ခဲ့သည်။ ထို့နောက် အဗူအဗ္ဗဒ္ဒလ္လာဟ်သည် အာဖရိကမြောက်ပိုင်းဒေသတွင် မိမိ၏စစ်အင်အားကို ခိုင်မာတောင့်တင်းအောင် ကြိုးပမ်းခဲ့သည်။ အင်အားစုစည်းမိသည့်အခါ တူနီးရှားဒေသအခြေစိုက် အဂါလေဗာနိုင်ငံကို ဝင်ရောက်တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ ဟိဂျ်ရီ (၂၉၆) ခုနှစ်တွင် အဂါလေဗာမြို့တော် ရိုကာဒါကို သိမ်းပိုက်ပြီးနောက် ဖွာသွေမီယာမင်းဆက်ကို စတင်တည်ထောင်ခဲ့သည်။ ပထမဦးဆုံး အုပ်ချုပ်သူဘုရင်မှာ ရှီအာခေါင်းဆောင်တစ်ဦးဖြစ်သည့် စအီးဒ်ဗင်န်ဟစန် ဖြစ်သည်။

ဟိဂျ်ရီ (၃၅၈) ခုနှစ် ဖွာသွေမီယာဘုရင် မိုအိဇ်လေဒီးနိလ္လာဟ်လက်ထက်တွင် အိခ်ရှီဒီယာများကို တိုက်ခိုက်ပြီး အီဂျစ်နိုင်ငံကို သိမ်းပိုက်နိုင်ခဲ့သည်။ ထို့နောက် ကိုင်ရိုမြို့ကို အုတ်မြစ်ချတည်ဆောက်

ခဲ့သည်။ နာမည်ကျော် အဇ်ဟရ်ဝတ်ကျောင်းတော်ကို တည်ဆောက်ခဲ့သည်။ ဟိဂျ်ရီ (၃၆၂) ခုနှစ်တွင် အီဂျစ်နိုင်ငံကိုင်ရိုမြို့တော်သို့ ပြောင်းရွှေ့နန်းစိုက်ခဲ့သည်။ ရှာမ်နှင့် ဟေဂျားဇ်ဒေသကို ထပ်မံအောင်နိုင်ပြီးနောက် ဖွာသွေမီယာနိုင်ငံ၏ ဩဇာအာဏာပိုမိုကြီးမားလာပြီး အဗ္ဗာစီယာအင်ပါယာနှင့် အပြိုင်ဖြစ်လာခဲ့သည်။

မိုအိဇ်လေဒီးနိလ္လာဟ်လက်ထက်တွင် သဘော်ာ (၆၀၀) ပါဝင်သော ရေတပ်ကို တည်ထောင်ခဲ့သည်။ ဆည်မြောင်းများနှင့် ရေလှောင်ကန်များကို တိုးချဲ့တည်ဆောက်ပြီး စိုက်ပျိုးမြေများကို ချဲ့ထွင်ခဲ့သည်။ လက်မှုလုပ်ငန်းများကိုလည်း အားပေးခဲ့သည်။ ထို့ကြောင့် ဖာသွေမီယာနိုင်ငံ၏ စီးပွားရေးအင်အားတောင့်တင်းလာခဲ့သည်။ ထိုဘုရင်သည် ရှီအာအယူဝါဒပြန့်ပွားရေးအတွက်လည်း အထူးကြိုးပမ်းခဲ့သည်။

ဘုရင်အဇီးဇ်လက်ထက်တွင် ဖာသွေမီယာတို့၏ဩဇာအာဏာ အထွတ်အထိပ်သို့ရောက်ခဲ့သည်။ အဇ်ဟရ်ဝတ်ကျောင်းတော်သည် နာမည်ကျော်တက္ကသိုလ်တစ်ခုဖြစ်လာခဲ့သည်။ အစ္စလာမ့်သမိုင်းတွင် မကြုံခဲ့ဖူးသော ဆိုးသွမ်းသည့်ဘုရင်များလည်း ဖာသွေမီယာခေတ်တွင် ပေါ်ပေါက်လာခဲ့သည်။ ဖာသွေမီယာဘုရင်တစ်ဦးဖြစ်သည့် ဟာကင်မ်သည် မိမိကိုယ်ကို ခဝပ်ကိုးကွယ်ခံထိုက်သူဟု ကြေညာခဲ့သည်။ ဘုရင်မွစ်သန်ဆွိရ်အုပ်ချုပ်သည့် ဟိဂျ်ရီ (၄၈၇) ခုနှစ်အထိကာလသည် ဖွာသွေမီယာတို့ အင်အားတောင့်တင်းသည့်ကာလဖြစ်သည်။ နောက်ပိုင်းဘုရင်များသည် အရည်အချင်းမရှိကြဘဲ တိုင်းပြည်စီမံခန့်ခွဲမှုကို ဝန်ကြီးများလက်ဝယ် လွှဲအပ်ထားခဲ့ကြသည်။ ထိုဝန်ကြီးများအချင်းချင်း အားပြိုင်မှုကြောင့် ဖာသွေမီယာတို့၏ ဩဇာအာဏာ ကျဆင်းလာခဲ့သည်။ ဖာသွေမီယာပိုင်နယ်မြေများကို ပြန်လည်လက်လွှတ်ဆုံးရှုံးလာခဲ့ရသည်။

ဟိဂျ်ရီ (၅၉၉) ခုနှစ် ဖာသွေမီယာမင်းဆက်၏နောက်ဆုံး ဘုရင်ဖြစ်သည့် အာသိက်ဒ်လက်ထက်တွင် ဝန်ကြီးနှစ်ဦးအာဏာလုကြသည်။ ဝန်ကြီးတစ်ဦးက ပါလက်စတိုင်းဒေသတွင် ခြေကုပ်ယူထားသော ခရစ်ယာန်ခရူးဆိတ်စစ်တပ်ကို အကူအညီတောင်းပြီး နောက်တစ်ဦးက ရှာမ်ဒေသ၏ဘုရင် နူရွဒ္ဒီးန်ဇန်ကီထံ အကူအညီတောင်းခဲ့သည်။ ထိုအခါ နူရွဒ္ဒီးန်က အစဒ္ဒီးန်ရှေးရ်ကိုးဟ်ကို ခေါင်းဆောင်ခန့်၍ စစ်တပ်တစ်တပ်စေလွှတ်ပေးခဲ့သည်။ ထိုစစ်တပ်သည် အီဂျစ်ဒေသသို့ ချီတက်လာပြီး ခရစ်ယာန်တို့ထံ အကူအညီတောင်းခဲ့သောဝန်ကြီးကို သုတ်သင်ပြီး မိမိတို့ထံ အကူအညီတောင်းခံသောဝန်ကြီးကို ရာထူးခန့်အပ်ခဲ့သည်။

ဟိဂျ်ရီ (၅၆၂) ခုနှစ်တွင် ခရစ်ယာန်ခရူးဆိတ်စစ်တပ်များ အီဂျစ်ဒေသသို့ ချီတက်လာခဲ့သည်။ ထိုအခါ အစဒ္ဒီးန်ရှေးရ်ကိုးဟ်လည်း မိမိ၏စစ်တပ်နှင့်အတူ အီဂျစ်သို့ ပြန်လည်ချီတက်လာခဲ့သည်။ ဤချီတက်မှုတွင် နာမည်ကျော်ခေါင်းဆောင်ဆွလာဟွဒ္ဒီန်းအိုင်ယူဘီ ပါဝင်လာခဲ့သည်။ ခရစ်ယာန်ခရူးဆိတ်စစ်တပ်များကို ပြန်လည်တိုက်ထုတ်နိုင်ခဲ့သည်။ ထိုအောင်နိုင်မှုအပြီးတွင် ဖွာသွေမီယာဘုရင်က အစဒ္ဒီးန်ရှေးရ်ကိုးဟ်ကို ဝန်ကြီးအဖြစ်ခန့်အပ်ခဲ့သည်။ ထိုသို့ခန့်အပ်ပြီး (၃) လအကြာတွင် အစဒ္ဒီးန်ရှေးရ်ကိုးဟ် ကွယ်လွန်ပြီး ဆွလာဟွဒ္ဒီးန်အိုင်ယူဘီ ဝန်ကြီးဖြစ်လာခဲ့သည်။ ဟိဂျ်ရီ (၅၆၇) ခုနှစ်တွင် ဖွာသွေမီယာဘုရင် အာသိက်ဒ်ကွယ်လွန်ခဲ့သည်။ ထိုအခါ ဆွလာဟွဒ္ဒီးန်အိုင်ယူဘီက ဖွာသွေမီယာမင်းဆက် ပျက်သုဉ်းပြီဖြစ်ကြောင်း ကြေညာခဲ့သည်။ ထို့ကြောင့် နှစ်ပေါင်း (၂၀၀) ကျော် တည်တံ့ခဲ့သော ဖွာသွေမီယာခေတ် ကုန်ဆုံးခဲ့သည်။

အုပ်ချုပ်ရေးအလွှာမှ ပုဂ္ဂိုလ်အများစုမှာ ရှီအာများဖြစ်ကြသည်။ ထို့ကြောင့် လူအများအား ရှီအာအယူဝါဒဘက်သို့ ဖိတ်ခေါ်သည့်

လုပ်ရှားမှုများကို စနစ်တကျထောက်ပံ့ပေးခဲ့သည်။ နှစ်ပေါင်း (၂၀၀) ကျော်ကြာရှည်ခဲ့သော ဖွာသွေမီယာခေတ်တွင် နာမည်ကျော်အဇ်ဟာရ် တက္ကသိုလ်သည် ရှိအာအယူဝါဒ ဖြန့်ဖြူးရာ အဓိကဌာနချုပ်ဖြစ်ခဲ့သည်။ ဆေးပညာနှင့် နက္ခတ္တဗေဒပညာရပ်ဆိုင်ရာ နာမည်ကျော်ပညာရှင်များ ပေါ်ထွန်းခဲ့သည်။ ဆေးပညာနှင့် နက္ခတ္တဗေဒဆိုင်ရာ ကျွမ်းကျင်ပညာ ရှင် အိဗ်နေ့ရိဇ်ဝါးန်၊ သင်္ချာပညာနှင့် နက္ခတ္တဗေဒပညာရှင် အိဗ်နေ့ ယူနွတ်စ်၊ နာမည်ကျော်ဆေးပညာရှင်များဖြစ်သည့် အိဗ်နေ့နဖီးစ်နှင့် အလီဗင်န်အီဆာစသဖြင့် ပေါ်ထွန်းခဲ့သည်။ ဆောက်လုပ်ရေးဗိသုကာ ပညာရပ်ကိုလည်း ဖွာသွေမီယာဘုရင်များက အထူးအလေးပေးဆောင် ရွက်ခဲ့ကြသည်။ ယနေ့အချိန်အထိ များစွာသော ဖွာသွေမီယာခေတ် ဗိသုကာလက်ရာများ ကျန်ရှိနေဆဲဖြစ်သည်။

## အိုင်ယူဘီယာခေတ် (ဟိဂျ်ရီ ၅၆၇ - ၆၄၈)

အစ္စလာမ့်သမိုင်းဝင်သူရဲကောင်းတစ်ဦးဖြစ်သည့် ဆွလာဟွဒ္ဒီးန် အိုင်ယူဘီနှင့် သူ၏သားစဉ်မြေးဆက် အုပ်ချုပ်ခဲ့သည့် အီဂျစ်အခြေစိုက် မင်းဆက်ဖြစ်သည်။ ပါလက်စတိုင်းဒေသရှိ ဘိုင်သွလ်မုကဒ္ဒက်စ်ကို ခရစ်ယာန်ခရူးဆိတ်စစ်တပ်များလက်ဝယ်မှ ပြန်လည်တိုက်ယူပေးခဲ့ သော ဆွလာဟွဒ္ဒီးန်သည် အဇာဘိုင်ဂျန်ဒေသတွင်နေထိုင်သည့် ကားဒ် မျိုးနွယ်စုဝင်တစ်ဦးဖြစ်သည်။ ဆွလာဟွဒ္ဒီးန်၏ ဖခင်ဖြစ်သူ နဂ်မွဒ္ဒီးန် အိုင်ယူးဗ်နှင့် ဦးလေးဖြစ်သူ အစဒ္ဒွဒ္ဒီးန်ရှေးရ်ကိုးဟ်တို့သည် အလက်ပိုမြို့ နှင့် မိုဆူးလ်မြို့အခြေစိုက် ဇန်ကီမင်းဆက်ဘုရင် အေမာဒ္ဒွဒ္ဒီးန်ဇန်ကီထံ အမှုထမ်းရင်း စစ်တပ်ခေါင်းဆောင်များ ဖြစ်လာခဲ့ကြသည်။

ဆွလာဟွဒ္ဒီးန်သည် ငယ်ရွယ်စဉ်ကပင် စစ်မှုရေးရာပညာရပ် များကို သင်ယူလေ့ကျင့်ခဲ့သည်။ အရဗီစာပေနှင့် အစ္စလာမ့်ရေးရာ ပညာရပ်များကိုလည်း သင်ယူဆည်းပူးခဲ့သည်။ အရွယ်ရောက်လာ

သောအခါ ရဲမှူးဖြစ်လာခဲ့သည်။ ထို့နောက် ရှာမ်ဒေသဘုရင် နူရွဒ္ဒီးန်၏ စစ်တပ်ခေါင်းဆောင်တစ်ဦး ဖြစ်လာခဲ့သည်။

ခရစ်ယာန်ခရူးဆိတ်စစ်တပ်များ အီဂျစ်နိုင်ငံကို ကျူးကျော် တိုက်ခိုက်လာသောအခါ ဦးလေးဖြစ်သူ အစဒ္ဒဒ္ဒီးန်ရှေးရ်ကိုးဟ်နှင့်အတူ ဆွလာဟွဒ္ဒီးန်သည် ရှာမ်စစ်တပ်ကို ဦးဆောင်ကာ အီဂျစ်ဒေသသို့ ချီတက်လာပြီး ဖွာသွေမီယာတို့ကို စစ်ကူပေးခဲ့သည်။ ထိုစစ်ပွဲများတွင် ခရူးဆိတ်စစ်တပ်များကို အနိုင်ရခဲ့ပြီး ဆွလာဟွဒ္ဒီးန်၏ ရဲစွမ်းသတ္တိနှင့် အရည်အချင်းများ ပေါ်လွင်လာခဲ့သည်။ ဟိဂျ်ရီ (၅၆၄) ခုနှစ်တွင် ဖာသွေမီယာဘုရင်၏ ခန့်အပ်တာဝန်ပေးမှုကြောင့် ဆွလာဟွဒ္ဒီးန်သည် အီဂျစ်နိုင်ငံ၏ဝန်ကြီးချုပ် ဖြစ်လာခဲ့သည်။ ဟိဂျ်ရီ (၅၆၇) ခုနှစ်တွင် ဖာသွေမီယာမင်းဆက်၏ နောက်ဆုံးဘုရင် အာသိက်ဒ်ကွယ်လွန်ပြီး နောက် ဝန်ကြီးချုပ်ဖြစ်သူ ဆွလာဟွဒ္ဒီးန်က ဖာသွေမီယာခေတ် ကုန်ဆုံး ပြီဖြစ်ကြောင်း ကြေညာခဲ့သည်။ ထို့ကြောင့် ဆွလာဟွဒ္ဒီးန်သည် အုပ်ချုပ်သူဘုရင်ဖြစ်လာပြီး အိုင်ယူဘီယာမင်းဆက် စတင်ခဲ့သည်။

ဦးစွာပထမ ဆွလာဟွဒ္ဒီးန်သည် အီဂျစ်နိုင်ငံတွင် အုပ်ချုပ်ရေးကို အခြေခိုင်အောင် ဆောင်ရွက်ခဲ့သည်။ မတရားမှုများကို တိုက်ဖျက်ခဲ့ သည်။ ထို့နောက် ပါလက်စတိုင်းနှင့် ရှာမ်ဒေသ ဆိပ်ကမ်းများတွင် ကောင်းစွာခြေကုပ်ယူထားပြီဖြစ်သော ခရစ်ယာန်ခရူးဆိတ်စစ်တပ်တို့ ၏ အန္တရာယ်ကို စုပေါင်းကာကွယ်နိုင်ရန်အတွက် ဆွလာဟွဒ္ဒီးန်သည် အရှေ့တိုင်းအစ္စလာမ့်နယ်မြေများကို စုစည်းရန် ကြိုးစားခဲ့သည်။ ထို့ကြောင့် ရှာမ်ဒေသကို သိမ်းယူပြီး ညီဖြစ်သူ သောင်ရားန်ရှားဟ်က ယမန်ဒေသကို သိမ်းယူခဲ့သည်။ ထို့နောက် အလက်ပို၊ မိုဆူးလ်နှင့် အလ်ဂျီးရီယားဒေသတို့ကို ဆက်လက်သိမ်းယူခဲ့သည်။ အရှေ့တိုင်း အစ္စလာမ်နိုင်ငံများစုစည်းမိသွားပြီး အင်အားစုတစ်ခုအသွင် ဖြစ်လာခဲ့ပြီ ဖြစ်သည်။

ထိုအချိန်တွင် ခရစ်ယာန်ခရူးဆိတ်စစ်တပ်များက အစ္စလာမ့်နယ်မြေများဖြစ်သည့် အန်သွာကီယာ၊ ရဟာ၊ ဂျေရုစလင်၊ ထရီပိုလီနှင့် အခြားမြို့များကို သိမ်းပိုက်ထားခဲ့သည်မှာ နှစ်ပေါင်း (၇၀) ကျော်ခဲ့ပြီဖြစ်သည်။ သိမ်းပိုက်ထားသောမြို့များကို ခရစ်ယာန်များက မြို့ပြနိုင်ငံများအဖြစ် အုပ်ချုပ်နေပြီဖြစ်သည်။ ဆွလာဟွဒ္ဒီးန်ခေါင်းဆောင်သော မွတ်စ်လင်မ်စစ်တပ်နှင့် ခရစ်ယာန်တပ်ပေါင်းစုများအကြား တိုက်ပွဲပေါင်းများစွာ ဖြစ်ပွားခဲ့သည်။ နာမည်ကျော် ဟိဒ်သွီးန်တိုက်ပွဲ (ဟိဂျ်ရီ ၅၈၃) တွင် မွတ်စ်လင်မ်စစ်တပ် အနိုင်ရခဲ့သည်။ ခရူးဆိတ်ဒါ (၁၄၀၀၀) ဦးခန့် သုံ့ပန်းအဖြစ်ဖမ်းဆီးခံခဲ့ရပြီး (၉၀၀၀) ဦးခန့် အသတ်ခံခဲ့ရသည်။ ထိုအောင်နိုင်မှုအပြီးတွင် မွတ်စ်လင်မ်စစ်တပ်သည် ဂျေရုစလင်မြို့ကို ပြန်လည်သိမ်းယူနိုင်ခဲ့သည်။ နှစ်ပေါင်း (၈၀) ကျော် အဆက်ပြတ်ခဲ့သော အဇာန်သံများ ဗိုင်သွလ်မိုကဒ္ဒက်စ်ဝတ်ကျောင်းတော်တွင် ပြန်လည်လွှမ်းမိုးလာခဲ့သည်။

ဂျေရုစလင်နှင့် အရှေ့တိုင်းရှိဆုံးရှုံးသွားသောနယ်မြေများကို ပြန်လည်သိမ်းယူရန်အတွက် အင်္ဂလန်၊ ပြင်သစ်နှင့် ဂျာမဏီတို့ပူးပေါင်းပါဝင်သည့် ခရူးဆိတ်စစ်တပ်ကြီး ချီတက်လာခဲ့သည်။ ခရူးဆိတ်စစ်ပွဲသမိုင်းတစ်လျှောက် အကြီးဆုံးထိုးစစ်ဖြစ်သည်။ ဟိဂျ်ရီ (၅၈၅) မှ (၅၈၇) ခရစ်နှစ် (၁၁၈၉) (၁၁၉၁) ထိ ကြာရှည်ခဲ့သော ထိုခရူးဆိတ်စစ်တပ်ကြီး၏ တိုက်ခိုက်မှုကို ဆွလာဟွဒ္ဒီးန်အိုင်ယူဘီ ခေါင်းဆောင်သော မွတ်စ်လင်မ်စစ်တပ်က ကြံ့ကြံ့ခံကာကွယ်တိုက်ခိုက်ခဲ့သည်။ ခရူးဆိတ်စစ်တပ်သည် အောင်မြင်မှုအချို့ရရှိခဲ့သော်လည်း အဓိကရည်မှန်းချက်ဖြစ်သည့် ဂျေရုစလင်မြို့ကို မသိမ်းယူနိုင်ခဲ့ပါ။ ထို့ကြောင့် နောက်ဆုံးတွင် စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုပြီး ခရူးဆိတ်စစ်တပ် ပြန်လည်ဆုတ်ခွာသွားခဲ့ သည်။

အရှေ့တိုင်းအစ္စလာမ့်ကမ္ဘာကို စုစည်းပြီး အောင်မြင်မှုများစွာ ဦးဆောင်ရယူပေးခဲ့သော ခေါင်းဆောင်ဆွလာဟွဒ္ဒီးန်အိုင်ယူဘီသည် ဟိဂျ်ရီ (၅၈၉) ခုနှစ်၊ ခရစ်နှစ် (၁၁၉၃) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ ဆွလာဟွဒ္ဒီးန်အိုင်ယူဘီကွယ်လွန်ပြီးနောက် အိုင်ယူဘီမင်းဆက် ဆက်လက် တည်တံ့ခဲ့သည်။ ထိုအိုင်ယူဘီယာဘုရင်များလက်ထက်တွင်လည်း ခရူးဆိတ်စစ်တပ်တို့၏ ထိုးစစ်များကို ကာကွယ်နိုင်ခဲ့သည်။ ဟိဂျ်ရီ (၆၄၈) ခုနှစ်၊ ခရစ်နှစ် (၁၂၅၀) ခုနှစ်တွင် မမာလိက်ခေါင်းဆောင်များ၏ လုပ်ကြံသတ်ဖြတ်မှုကြောင့် အိုင်ယူဘီယာမင်းဆက်၏ နောက်ဆုံးဘုရင် သောင်ရားန်ရှားဟ်ကွယ်လွန်ပြီး အိုင်ယူဘီယာခေတ်ကုန်ဆုံးခဲ့သည်။

အိုင်ယူဘီယာနိုင်ငံသည် ခရစ်ယာန်ခရူးဆိတ်တို့၏ တိုက်ခိုက်မှုများကို ကာကွယ်နိုင်ခဲ့ပြီး အရှေ့တိုင်းအစ္စလာမ့်ကမ္ဘာကို စည်းလုံးညီညွတ်စေခဲ့သည်။ ဆွလာဟွဒ္ဒီးန်အိုင်ယူဘီသည် ဖွာသွေမီယာတို့ ခန့်အပ်ထားသော ရှီအာတရားသူကြီးများကို ဖြုတ်ချပြီး ရှာဖေအီပညာရှင်တရားသူကြီးများကို ခန့်အပ်ခဲ့သည်။ အိုင်ယူဘီယာနိုင်ငံသည် စီးပွားရေးအင်အားတောင့်တင်းသော နိုင်ငံတစ်ခုဖြစ်ခဲ့သည်။ စိုက်ပျိုးရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ အချိန်မရွေး ရောက်ရှိလာနိုင်သည့် ခရူးဆိတ်ထိုးစစ်များကို ကာကွယ်တိုက်ခိုက်နေရသည့်အတွက် အိုင်ယူဘီယာဘုရင်တို့သည် စစ်တပ်အင်အားကို အမြဲတမ်း ဖြည့်တင်းထားကြသည်။

အိုင်ယူဘီယာဘုရင်တို့သည် စစ်ပွဲများနှင့် လုံးပမ်းနေရသော်လည်း ပညာရေးကို များစွာအားပေးခဲ့သည်။ ထင်ရှားသော သမိုင်းပညာရှင် အိဗ်နေ့အစီးရ် ပေါ်ထွန်းခဲ့သည်။ အရဗီစာပေကဏ္ဍ အထူးတိုးတက်ခဲ့ပြီး နာမည်ကျော်အရဗီစာပေပညာရှင် အိဗ်နေ့ဟာဂိဗ် ပေါ်ထွန်းခဲ့သည်။ နာမည်ကျော်ပထဝီနှင့်သမိုင်းပညာရှင် အဗွလ်

ဖေဒါ့အ် ပေါ်ထွန်းခဲ့သည်။ ဖာသွေမီယာခေတ်တွင် တွင်ကျယ်ခဲ့သော ရှီအာအယူဝါဒကို တိုက်ဖျက်ရန်အတွက် များစွာသော စွန္နီအယူဝါဒ အခြေပြုကျောင်းများကို တည်ထောင်ခဲ့သည်။

အိုင်ယူဘီယာခေတ် ဗိသုကာလက်ရာများကို အဓိကအားဖြင့် ပုံစံနှစ်မျိုးတွေ့ရသည်။ ပထမတစ်မျိုးမှာ စာသင်ကျောင်းများဖြစ်ပြီး ဒုတိယတစ်မျိုးမှာ ခံတပ်ကြီးများဖြစ်သည်။ ထုထည်ကြီးမားပြီး ထည်ဝါခိုင်မာသည့် အိုင်ယူဘီယာခေတ်လက်ရာများသည် ယနေ့အချိန်အထိ ကျန်ရှိနေဆဲဖြစ်သည်။ အိုင်ယူဘီယာခေတ်တွင် ဘုရင် (၈) ဦး အုပ်ချုပ်ခဲ့သည်။

## မမာလီးက်ခေတ် (ဟိဂျ်ရီ ၆၄၈ - ၉၂၃)

မမာလီးက်များသည် အိုင်ယူဘီဘုရင်များက ကော့ကေးဆပ်နှင့် တာကစ္စတန်ဒေသမှ အီဂျစ်သို့ ခေါ်ဆောင်လာခဲ့သော ကျွန်များဖြစ်သည်။ ထိုသို့ခေါ်ဆောင်လာပြီးနောက် အရဗီဘာသာစကားနှင့် စစ်ရေးအတတ်ပညာများကို စနစ်တကျသင်ကြားပေးခဲ့သည်။ ထို့ကြောင့် ထိုကျွန်များသည် စစ်ရေးကျွမ်းကျင်ကြပြီး ရဲစွမ်းသတ္တိရှိသူများလည်း ဖြစ်ကြသည်။ ထိုကျွန်များသည် တဖြည်းဖြည်း ကြီးမားသော အင်အားစုတစ်ခု ဖြစ်လာခဲ့သည်။ ထိုကျွန်များထဲမှ နိုင်ငံတော်အာဏာကို ရယူပြီး ဘုရင်ဖြစ်လာသည့် ပုဂ္ဂိုလ်များ ပေါ်ပေါက်ခဲ့သည်။ ထိုဘုရင်များအုပ်ချုပ်သည့်ခေတ်ကို မမာလီးက်ခေတ်ဟုခေါ်သည်။ မမာလီးက်ခေတ်သည် ရာစုနှစ်နှစ်ရာကျော် ကြာရှည်ခဲ့သည်။ မမာလီးက်နိုင်ငံသည် အီဂျစ်တွင် အခြေစိုက်ပြီး ရှာမ်ဒေသနှင့် ဟေဂျားဇ်ဒေသ အစွန်အဖျားအထိ ကျယ်ဝန်းသည်။

မမာလီးက်ခေတ်ကို နှစ်ပိုင်းခွဲခြားနိုင်သည်။

ဘဲဟ်ရီးမမာလီးက်ခေတ် (ဟိဂျ်ရီ ၆၄၈ - ၇၈၄)
ဘွရ်ဂျီးမမာလီးက်ခေတ် (ဟိဂျ်ရီ ၇၈၄ - ၉၂၃)

**ဘဲဟ်ရီးမမာလီးက်ခေတ် (ဟိဂျ်ရီ ၆၄၈ - ၇၈၄)**

ဘဲဟ်ရီးမမာလီးက်များသည် အိုင်ယူဘီဘုရင်ဆွာလေ့ဟ်က ဝယ်ယူပြီး နိုင်းလ်မြစ်ရှိ ရောင်ဇွာကျွန်းတွင် အခြေချနေထိုင်စေခဲ့သူများ ဖြစ်သည်။ အိုင်ယူဘီယာနွယ်ဝင် အမျိုးသမီးတစ်ဦးဖြစ်သည့် ရှဂျရသွရ် ဒွရ်သည် အိုင်ယူဘီယာဘုရင်သောင်ရားန်ရှားဟ်ကွယ်လွန်ပြီးနောက် အုပ်ချုပ်သူဖြစ်လာသည်။ သူမသည် မမာလီးက်ခေါင်းဆောင်အိုင်ဘက် နှင့်လက်ထက်ပြီး အုပ်ချုပ်မှုအာဏာကို အိုင်ဘက်ထံသို့ လွှဲပြောင်း ပေးခဲ့သည်။ ထိုအချိန်မှစ၍ ဘဲဟ်ရီးမမာလီးက်ခေတ် စတင်ခဲ့သည်။ ဤခေတ်တွင် ဘုရင် (၂၇) ဦးအုပ်ချုပ်ခဲ့သည်။ အိုင်ဘက်၊ ဇွာဟိရ် ဘိုင်ဘရက်စ်၊ မန်စူးရ်ကလာဝူးန်နှင့် အရ်ှရဖ်ခလီးလ်စသည့် နာမည် ကျော်ဘုရင်များ ပေါ်ထွန်းခဲ့သည်။

ဘဲဟ်ရီးမမာလီးက်ခေတ်တွင်လည်း မွတ်စ်လင်မ်စစ်တပ်နှင့် ခရစ်ယာန်ခရူးဆိတ်စစ်တပ်အကြား တိုက်ပွဲများဖြစ်ပွားခဲ့သည်။ ဟိဂျ်ရီ (၆၅၈) ခုနှစ်၊ ခရစ်နှစ် (၁၂၆၀) ခုနှစ်တွင် ဘုရင်ဖြစ်လာသည့် နာမည် ကျော်မမာလီးက်ဘုရင် ဇွာဟိရ်ဘိုင်ဘရက်စ်လက်ထက်တွင် ခရစ်ယာန် တို့သိမ်းပိုက်ထားသော မြို့အများစုကို ပြန်လည်သိမ်းယူနိုင်ခဲ့သည်။ ထို့အပြင် ဟိဂျ်ရီ (၆၇၈) ခုနှစ်၊ ခရစ်နှစ် (၁၂၇၉) ခုနှစ်တွင် ဘုရင်ဖြစ် လာသည့် မန်စူးရ်ကလာဝူးန်နှင့် ဟိဂျ်ရီ (၆၈၉) ခုနှစ်၊ ခရစ်နှစ် (၁၁၉၀) ခုနှစ်တွင် ဘုရင်ဖြစ်လာသည့် အရ်ှရဖ်ခလီးလ်တို့လက်ထက်တွင် ခရစ်ယာန်တို့သိမ်းပိုက်ထားသော နယ်မြေအားလုံးကို ပြန်လည်သိမ်း ယူနိုင်ခဲ့သည်။

ထို့ကြောင့် ဘဲဟ်ရီးမမာလီးက်ခေတ်တွင် အရှေ့တိုင်းဒေသမှ ခရူးဆိတ်ဒါတို့ အပြီးထွက်ခွာသွားခဲ့ရသည်။ ထို့အတူ တစ်ကမ္ဘာလုံးကို ကြောက်ရွံ့တုန်လှုပ်စေခဲ့သည့် မွန်ဂိုတာတာရီတို့၏ ကျူးကျော်စစ်ကို လည်း မမာလီးက်တို့က ရပ်တန့်စေနိုင်ခဲ့သည်။ နာမည်ကျော် အိုင်နေ ဂျာလူးသ်စစ်ပွဲတွင် မမာလီးက်စစ်တပ်သည် မွန်ဂိုစစ်တပ်ကို အနိုင်ရခဲ့ သောကြောင့် မွန်ဂိုတို့သည် ရှာမ်ဒေသမှ ဆုတ်ခွာသွားခဲ့ရသည်။ ဘဲဟ်ရီးမမာလီးက်ခေတ်တွင် အီဂျစ်နိုင်ငံသည် စစ်ရေးအင်အားနှင့် အတူ စီးပွားရေးပါ ဖွံ့ဖြိုးတိုးတက်ခဲ့သည်။ ကိုင်ရိုမြို့တွင် များစွာသော နန်းတော်ကြီးများ၊ ဗလီများ၊ စာသင်ကျောင်းများနှင့် ဆေးရုံများကို တည်ဆောက်ခဲ့သည်။ ထိုခေတ်အခါက နာမည်ကျော်ဆရာဝန်များ စုရုံးရာနေရာဖြစ်သည့် ဆေးပညာသင်ကောလိပ်နှင့် တွဲဖွင့်ထားသည့် မန်ဆူရီဆေးရုံကြီးမှာ သမိုင်းဝင်ဆေးရုံကြီးဖြစ်သည်။

## ဘွရ်ဂျီးမမာလီးက်ခေတ် (ဟိဂျ်ရီ ၇၈၄ - ၉၂၃)

ဘဲဟ်ရီးမမာလီးက်ဘုရင် ဆွလ်သွားန်ကလာဝူးန်က အာမေး နီးယားဒေသမှ အီဂျစ်သို့ ခေါ်ဆောင်လာသော ကျွန်များသည် ဘွရ်ဂျီးမမာလီးက်များဖြစ်သည်။ ဘွရ်ဂျီးမမာလိက်တို့သည် တဖြည်း ဖြည်း အင်အားတောင့်တင်းလာပြီး ဟိဂျ်ရီ (၇၈၄) ခုနှစ်တွင် ဘဲဟ်ရီး မမာလီးက်မင်းဆက်၏ နောက်ဆုံးဘုရင် ဇိုင်နွဒ္ဒီးန်ကိုဖြုတ်ချပြီး အာ ဏာရယူခဲ့သည်။ ဤခေတ်တွင် ဘုရင် (၂၅) ဦး အုပ်ချုပ်ခဲ့သည်။ ဘုရင် ဖွာဟိရ်လက်ထက်တွင် မွန်ဂိုတာတာရီတို့၏ထိုးစစ်ကို ရင်ဆိုင်ခုခံနိုင်ခဲ့ သည်။

နိုင်ငံရေးအရမတည်ငြိမ်သော ခေတ်ကာလဖြစ်သော်လည်း စီးပွားရေး၊ ပညာရေးနှင့် အဆင့်အတန်းမြင့်မားသော ဗိသုကာလက်ရာ

များ တိုးတက်ထွန်းကားခဲ့သည်။ နောက်ပိုင်းဘုရင်များသည် စည်းစိမ်ယစ်မူးပြီး အရာရှိကြီးများလည်း စည်းလုံးမှုပြိုကွဲလာခဲ့သည်။ ထို့ကြောင့် အင်ပါယာအင်အားကျဆင်းလာခဲ့ပြီး အခွန်ငွေများ ဆထက်တပိုးကောက်ခံခြင်းကြောင့် ပြည်သူတို့၏ထောက်ခံမှုလည်း ကျဆင်းလာခဲ့သည်။ ဟိဂျ်ရီ (၉၂၃) ခုနှစ်၊ ခရစ်နှစ် (၁၅၁၇) ခုနှစ်တွင် အော်တိုမန်တူရကီတို့၏ တိုက်ခိုက်သိမ်းပိုက်မှုကြောင့် မမာလီးက်ခေတ်ကုန်ဆုံးသွားခဲ့သည်။

မမာလီးက်ခေတ်တွင် ကိုင်ရိုမြို့တော်နှင့် ဒမက်စကပ်မြို့တို့သည် ပညာရေးဌာနချုပ်မြို့များဖြစ်ခဲ့သည်။ ပညာရပ်အသီးသီးတွင် ထိပ်သီးပညာရှင်များ ပေါ်ထွန်းခဲ့သည်။ ဟနဖီမဇ်ဟဗ်၏ နာမည်ကျော်ပညာရှင်အိဗ်နေ့ဟိုမားမ်ပေါ်ထွန်းခဲ့သည်။ စာပေနှင့် သမိုင်းပညာရှင်အကျော်အမော် အိဗ်နေ့ခလ်လေကားန်၊ ပထဝီဝင်၊ သမိုင်း၊ ဒဿနနှင့်ဆေးပညာရှင် အဗွလ်ဖေဒါအ်၊ လူမှုဗေဒပညာရပ်၏ ဖခင်ကြီးဖြစ်သည့်အိဗ်နေ့ခလ်ဒူးန်၊ သမိုင်းပညာရှင် အိဗ်နေ့ကစီးရ်စသည့် နာမည်ကျော်ပညာရှင်များစွာ ပေါ်ထွန်းခဲ့သည်။ နာမည်ကျော်အရဗီအဘိဓာန်ပညာရှင် အိဗ်နေ့မန်ဇူးရ်ပေါ်ထွန်းခဲ့သည်။ မမာလီးက်ဘုရင်များသည် ပညာရေးကို များစွာအားပေးထောက်ပံ့ခဲ့သည်။ မမာလိက်ခေတ်တွင် အဇ်ဟရ်တက္ကသိုလ်သည် ပညာရပ်ပေါင်းများစွာသင်ကြားပို့ချပေးသည့် ကမ္ဘာကျော်တက္ကသိုလ်ကြီးဖြစ်ခဲ့သည်။

# အခန်း ၅။ ရှာမ်နိုင်ငံ

**ဟမ်ဒါနီယာခေတ် (ဟိဂျ်ရီ ၃၁၇ - ၃၉၄)**

ဟမ်ဒါနီယာမင်းဆက်သည် အဗ္ဗာစီယာအင်ပါယာမှ ခွဲထွက်ခဲ့သော ရှာမ်နိုင်ငံ မိုဆူးလ်မြို့အခြေစိုက် ရှီအာမင်းဆက်ဖြစ်သည်။ အဗ္ဗာစီယာဘုရင်များကို တူရကီတို့ လွှမ်းမိုးချုပ်ကိုင်လာသောအခါ ဟမ်ဒါနီယာခေါင်းဆောင် ဟမ်ဒါးန်က မိုဆူးလ်မြို့ကို မြို့တော်အဖြစ် သတ်မှတ်ပြီး ရှာမ်ဒေသမြောက်ပိုင်းတွင် ဟမ်ဒါနီယာနိုင်ငံကို တည်ထောင် အုပ်ချုပ်ခဲ့သည်။ ဟိဂျ်ရီ (၃၃၃) ခုနှစ်တွင် အလက်ပိုမြို့သို့ ပြောင်းရွှေ့နန်းစိုက်ခဲ့သည်။

ဟမ်ဒါနီယာခေတ်တွင် ခရစ်ယာန်ဘာဇင်တိုင်းအင်ပါယာ၏ ကျူးကျော်တိုက်ခိုက်မှုများကို ဟန့်တားနိုင်ခဲ့သည်။ ရှာမ်နှင့်ပါလက်စတိုင်းဒေသတို့ကို သိမ်းပိုက်ရန်ကြိုးစားခဲ့သော ဘာဇင်တိုင်းစစ်တပ်များကို ပြန်လည်ခုခံတိုက်ခိုက်ပြီး အစ္စလာမ့်နယ်မြေများကို ကာကွယ်ပေးနိုင်ခဲ့သည်။ ဟမ်ဒါနီယာဘုရင် စိုင်ဖ်ဒေါင်လာလက်ထက်တွင် ပညာရပ်အသီးသီးထွန်းကားခဲ့သည်။ နာမည်ကျော်အရဗီကဗျာပညာရှင် မိုသနဗ္ဗီပေါ်ထွန်းခဲ့သည်။ နာမည်ကျော်အရဗီစာပေပညာရှင် အဗူလ်ဖရ်ဂျ်အဆ္ဖဟာနီ ပေါ်ထွန်းခဲ့သည်။ လူမှုဗေဒနှင့် ဒဿနိကဗေဒပညာရှင် ဖာရာဘီပေါ်ထွန်းခဲ့သည်။ စစ်သူရဲကောင်း ကဗျာဆရာ အဗူဖေရားစ် ပေါ်ထွန်းခဲ့သည်။

နာမည်ကျော်ဗိသုကာလက်ရာအများအပြား ဆောက်လုပ်နိုင်ခဲ့သည်။ စိုင်ဖ်ဒေါင်လာတည် ဆောက်ခဲ့သော ဟလ်ဗာနန်းတော်သည် ဟမ်ဒါနီယာခေတ်၏ နာမည်ကျော်ဗိသုကာလက်ရာတစ်ခု ဖြစ်သည်။ ဟမ်ဒါနီယာခေတ်တွင်

ဘုရင် (၉) ဦးအုပ်ချုပ်ခဲ့သည်။ နောက်ပိုင်းအုပ်ချုပ်သူဘုရင်များသည် အရည်အချင်းမပြည့်မီသောကြောင့် တိုင်းပြည်အင်အားချိနဲ့လာပြီး ဖွာသွေမီယာအင်ပါယာလက်အောက်သို့ ကျရောက်ကာ ဟမ်ဒါနီယာမင်းဆက် အဆုံးသတ်သွားခဲ့သည်။

# အခန်း ၆။ အာဖဂန်နစ္စတန်နိုင်ငံ

## ဂဇ်နဝီခေတ် (ဟိဂျ်ရီ ၃၅၁ - ၅၇၂)

အာဖဂန်နိုင်ငံအခြေစိုက် အိန္ဒိယမြောက်ပိုင်းနှင့် ဗဟိုအာရှဒေသ ခိုရာစာန်နယ်အထိကျယ်ဝန်းသော အင်ပါယာတစ်ခုဖြစ်သည်။ ဂဇ်နဝီများသည် တူရကီမျိုးနွယ်စုဝင်များဖြစ်ကြသည်။ ဂဇ်နဝီအင်ပါယာကို စတင်တည်ထောင်သူ စဗက်သကီးန်သည် အဗ္ဗာစီယာအင်ပါယာလက်အောက်ခံ ဗဟိုအာရှဒေသအုပ်ချုပ်သူများဖြစ်သည့် စာမာနီမျိုးနွယ်က ခန့်အပ်ထားသည့် အာဖဂန်နစ္စတန်နိုင်ငံ ဂဇ်နာမြို့၏ အုပ်ချုပ်ရေးမှူးတစ်ဦးဖြစ်ခဲ့သည်။ ထို့နောက်အင်အားကြီးမားလာပြီး ခိုရာစာန်ဒေသနှင့် အိန္ဒိယမြောက်ပိုင်းဒေသကို သိမ်းယူနိုင်ခဲ့သည်။

စဗက်သကီးန်ကို ဆက်ခံသော သားဖြစ်သူမဟ်မူးဒ်ဂဇ်နဝီလက်ထက်တွင် အိန္ဒိယနိုင်ငံ ပန်ဂျပ်ပြည်နယ်နှင့် ဗဟိုအာရှဒေသကို ဆက်လက်သိမ်းယူနိုင်ခဲ့သည်။ မဟ်မူးဒ်ဂဇ်နဝီလက်ထက်တွင် အိန္ဒိယနိုင်ငံ၌ အစ္စလာမ်သာသနာ ပိုမိုပြန့်ပွားလာခဲ့သည်။ မဟ်မူးဒ်ဂဇ်နဝီ၏ သားဖြစ်သူမက်စ်အူးဒ်ဂဇ်နဝီ လက်ထက်တွင် ပန်ဂျပ်ပြည်နယ် မြို့တော် လာဟိုမြို့ကို အခြေပြုပြီး အိန္ဒိယနိုင်ငံရှိ တခြားပြည်နယ်များကို ဆက်လက်ထိုးစစ်ဆင်ခဲ့သည်။

ဂဇ်နဝီများ အိန္ဒိယအရေးတွင် လုံးပန်းနေခြင်းကို အခွင့်ကောင်းယူပြီး ဆလ်ဂျူကီတို့က ခိုရာစာန်ဒေသကို တိုက်ခိုက်သိမ်းပိုက်ရန် ကြိုးစားခဲ့သည်။ ဟိဂျ်ရီ (၄၂၉) ခုနှစ်တွင် ခိုရာစာန်ဒေသကို စလ်ဂျူကီများ သိမ်းပိုက်နိုင်ခဲ့သည်။ ထို့နောက် ဂဇ်နဝီဘုရင်မက်စ်အူးဒ်ကို ညီဖြစ်သူ မုဟမ္မဒ်ဂဇ်နဝီက ပုန်ကန်ပြီး ဖြုတ်ချခဲ့သည်။ မုဟမ္မဒ်ဂဇ်နဝီဘုရင်ဖြစ်လာပြီးနောက် ဂဇ်နဝီတို့ အင်အားယုတ်လျော့ကျဆင်းလာပြီး ဗဟိုအာရှဒေသကိုပါ လက်လွှတ်လိုက်ရသည်။ ထို့အပြင် အာဖဂန်နစ္စတန်နိုင်ငံရှိ ဂေါင်ရီမျိုးနွယ်များက ဂဇ်နဝီများကို တိုက်ခိုက်ဖြုတ်ချခဲ့သောကြောင့် ဟိဂျ်ရီ (၅၇၁) ခုနှစ်တွင် ဂဇ်နဝီခေတ်ကုန်ဆုံးခဲ့သည်။ ဂဇ်နဝီခေတ်တွင် ဘုရင် (၁၈) ဦးအုပ်ချုပ်ခဲ့သည်။

ယနေ့အချိန်အထိ အာဖဂန်နစ္စတန်နိုင်ငံ ဂဇ်နာမြို့ဟောင်းတွင် ဂဇ်နဝီခေတ် ဗိသုကာလက်ရာဟောင်းများကို တွေ့ရမည်ဖြစ်သည်။ ဖာရစီစာပေအထွန်းတောက်ဆုံး ခေတ်ကာလဖြစ်ပြီး နာမည်ကျော်ဖာရစီစာပေပညာရှင်များစွာ ပေါ်ထွန်းခဲ့သည်။ ဖာရစီကဗျာဆရာအကျော်အမော် ဖိရ်ဒေါင်စီပေါ်ထွန်းခဲ့သည်။ သင်္ချာနှင့် နက္ခတ္တဗေဒပညာရှင် ဘေရူနီသည် ဂဇ်နာမြို့တွင် နေထိုင်ပြီး သုတေသနလုပ်ငန်းများ လုပ်ဆောင်နိုင်ခဲ့သည်။ ဂဇ်နာမြို့သည် ခမ်းနားထည်ဝါပြီး ပညာရှင်များ စုရုံးရာနေရာတစ်ခုဖြစ်ခဲ့သည်။

# အခန်း ၇။ အီရန်နိုင်ငံ

## ဘိုဝိုင်ဟီယာခေတ် (ဟိဂျ်ရီ ၃၃၄ - ၄၄၇)

အီရန်နိုင်ငံအခြေစိုက် ရှီအာအယူဝါဒကို ယုံကြည်သော ဘိုဝိုင်ဟီမျိုးနွယ်များ အုပ်ချုပ်သည့်ခေတ်ဖြစ်သည်။ ဘိုဝိုင်ဟီမျိုးနွယ်ခေါင်းဆောင် အဗူရှုဂျာ့အ်သည် အဗ္ဗာစီယာအင်ပါယာ၏ အင်အားချိနဲ့မှုကို အခွင့်ကောင်းယူပြီး အီရန်တောင်ပိုင်းရှိ အဗ္ဗာစီယာအုပ်ချုပ်ရေးမှူးများကို တိုက်ခိုက်ပြီး အာဏာရယူခဲ့သည်။ ထို့နောက် အုပ်ချုပ်ရေးကို အခြေခိုင်အောင် ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ ဟိဂျ်ရီ (၃၃၃) ခုနှစ်တွင် ဘိုဝိုင်ဟီယာခေါင်းဆောင် အဟ်မဒ်သည် မိမိစစ်တပ်နှင့်အတူ အဗ္ဗာစီယာမြို့တော် ဘဂ္ဂဒါးဒ်သို့ ချီတက်ပြီး ဘဂ္ဂဒါးဒ်မြို့တွင် အခြေချနေထိုင်ကာ အဗ္ဗာစီယာဘုရင်များကို ကြိုးကိုင်အုပ်ချုပ်ခဲ့သည်။

ထို့ကြောင့် ဘိုဝိုင်ဟီယာများသည် အီရတ်နှင့် အီရန်ဒေသတို့၏ အုပ်ချုပ်သူဘုရင်များဖြစ်လာခဲ့သည်။ ဘိုဝိုင်ဟီယာခေတ်တွင် (၁၀) ရာစု၏ နာမည်ကျော်ဆေးရုံကြီးဖြစ်သည့် ဘဂ္ဂဒါးဒ်မြို့ရှိ ဘေမာရိစ္စသာန်ဆေးရုံကြီးကို တည်ဆောက်ခဲ့သည်။ ဘိုဝိုင်ဟီယာဘုရင် အဒ္ဒိဒ္ဒသ်ဒေါင်လာ၏ ခေတ်ကာလသည် ဘိုဝိုင်ဟီယာအင်ပါယာ၏ ရွှေခေတ်ဖြစ်သည်။ ထိုဘုရင်သည် ပညာရပ်ဆိုင်ရာ သုတနေသနလုပ်ငန်းများ၊ စာအုပ်စာပေပြုစုရေးနှင့် ဆွေးနွေးပွဲများပြုလုပ်ရန်အတွက် ပညာရှင်များကို အထောက်အပံ့များစွာပေးခဲ့သည်။ ဘိုဝိုင်ဟီယာခေါင်းဆောင်များကြားရှိ အာဏာလုပွဲများနှင့် အချင်းချင်းတိုက်ခိုက်မှုများကြောင့် ဘိုဝိုင်ဟီယာတို့ အင်အားယုတ်လျော့ကျဆင်းလာခဲ့သည်။ နောက်ဆုံးတွင် စလ်ဂျူကီတို့၏ တိုက်ခိုက်မှုကြောင့် ဟိဂျ်ရီ (၄၄၇) ခုနှစ်တွင် ဘိုဝိုင်ဟီယာမင်းဆက် အဆုံးသတ်သွားခဲ့သည်။

ပညာရေးနှင့် ယဉ်ကျေးမှုရေးရာဖွံ့ဖြိုးတိုးတက်မှုသည် ဘိုဝိုင်ဟီယာခေတ်တွင်လည်း စဉ်ဆက်မပြတ်ဖြစ်ခဲ့သည်။ နာမည်ကျော်စွယ်စုံပညာရှင်တစ်ဦးဖြစ်သည့် အိဗ်နေ့ဆီနားသည် ဘိုဝိုင်ဟီယာတို့နှင့် များစွာအဆက်အသွယ်ရှိခဲ့သူဖြစ်သည်။ ဘိုဝိုင်ဟီယာခေတ်၏ ပြောင်မြောက်သောဗိသုကာလက်ရာများနှင့် ခမ်းနားထည်ဝါသည့် အဆောက်အဦးကြီးများကို ယနေ့ထက်တိုင် အီရန်နိုင်ငံတွင် တွေ့ရမည်ဖြစ်သည်။

ဘိုဝိုင်ဟီယာခေတ်တွင် ဘဂ္ဂဒါး‌ဒ်အခြေစိုက်ဘုရင် (၁၁) ဦး၊ အီရန်အခြေစိုက်ဘုရင် (၉) ဦး အုပ်ချုပ်ခဲ့သည်။

# အခန်း ၈။ ဗဟိုအာရှဒေသ

## စလ်ဂျူကီခေတ် (ဟိဂျ်ရီ ၄၂၉ -၅၄၈)

ဗဟိုအာရှဒေသအခြေစိုက် တူရကီနွယ်ဝင် စလ်ဂျူကီမျိုးနွယ်တို့အုပ်ချုပ်ခဲ့သည့်နယ်မြေအတိုင်းအတာသည် အီရန်၊ အာဖဂန်နစ္စတန်၊ ရှာမ်၊ ပါလက်စတိုင်း၊ အီရတ်နှင့် အာရေဗျကျွန်းဆွယ်အထိ ကျယ်ဝန်းခဲ့သည်။ အစပိုင်းတွင် စလ်ဂျူကီတို့သည် ဂျီဟူးန်မြစ်ကမ်းရှိ ဂျွန့်ဒ်မြို့၏အုပ်ချုပ်သူများဖြစ်ခဲ့ကြပြီး တဖြည်းဖြည်းစစ်အင်အားကောင်းလာခဲ့သည်။ စလ်ဂျူကီခေါင်းဆောင် သွဂ်ရွလ်လက်ထက် ဟိဂျ်ရီ (၄၂၉) ခုနှစ်၊ ခရစ်နှစ် (၁၀၃၇) ခုနှစ်တွင် ဂဇ်နဝီများကို တိုက်ခိုက်ပြီး ခိုရာစာန်နယ်ကို သိမ်းပိုက်နိုင်ခဲ့သည်။ ထိုအချိန်မှစ၍ စလ်ဂျူကီတို့အုပ်ချုပ်သောခေတ်အစပြုခဲ့သည်။ ဟိဂျ်ရီ (၄၄၂) ခုနှစ်တွင် အီရန်တောင်ပိုင်းဒေသများကို သိမ်းပိုက်နိုင်ခဲ့ပြီး ဟိဂျ်ရီ (၄၄၆) ခုနှစ်တွင် အဇာဘိုင်ဂျန်ဒေသကို အောင်နိုင်ခဲ့သည်။ ထို့နောက်

ဘိုဝိုင်ဟီယာများအုပ်ချုပ်နေသော အီရန်ဒေသကို တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။

ထို့နောက် ဟိဂျ်ရီ (၄၄၇) ခုနှစ်တွင် စလ်ဂျူကီစစ်တပ်သည် အဗ္ဗာစီယာအင်ပါယာမြို့တော်ဘဂ္ဂဒါးဒ်သို့ ချီတက်လာခဲ့သည်။ အဗ္ဗာစီယာဘုရင်ကလည်း စလ်ဂျူကီတို့ကို လက်ခံကြိုဆိုခဲ့သည်။ အဗ္ဗာစီယာဘုရင်များကို ကြိုးကိုင်ထားသော ဘိုဝိုင်ဟီယာမင်းဆက် အဆုံးသတ်သွားခဲ့သည်။ ထိုအချိန်မှစ၍ စလ်ဂျူကီတို့၏သြဇာအာဏာ ခိုင်မာသွားခဲ့ပြီး အဗ္ဗာစီယာဘုရင်များကို ကြိုးကိုင်လာခဲ့သည်။ သွဂ်ရွလ်ကိုဆက်ခံသော အလဘ်အရ်စလာန်းအုပ်ချုပ်သည့်ခေတ်သည် စလ်ဂျူကီများ အင်အားအတောင့်တင်းဆုံးအချိန်ဖြစ်သည်။ အာမေနီးယားနှင့် ဂျော်ဂျီယာဒေသတို့ကို အောင်နိုင်ခဲ့ပြီး စလ်ဂျူကီအင်ပါယာ ပိုမိုကျယ်ဝန်းလာခဲ့သည်။ ဟိဂျ်ရီ (၄၆၂) ခုနှစ်တွင် ဖွာသွေမီယာတို့လက်အောက်ရှိ ဟေဂျားဇ်နှင့် ရှာမ်ဒေသတို့ကို ဆက်လက်သိမ်းယူခဲ့သည်။

စလ်ဂျူကီတို့၏ အင်အားတောင့်တင်းလာမှုကို ထိတ်လန့်ပြီး ဟိဂျ်ရီ (၄၆၃) ခုနှစ်တွင် ဘာဇင်တိုင်းအင်ပါယာဘုရင်ရိုမန်နက်စ် (၄) က စလ်ဂျူကီတို့ကို တိုက်ခိုက်ရန် အင်အားကြီးမားသောစစ်တပ်ကို ပြင်ဆင်ပြီး ချီတက်လာခဲ့သည်။ အာမေးနီးယားနယ်စပ်တွင် အလဘ်အရ်စလာန်းဦးဆောင်သော စလ်ဂျူကီစစ်တပ်နှင့် ဘာဇင်တိုင်းစစ်တပ်တို့ ပြင်းထန်သောတိုက်ပွဲကြီး ဖြစ်ပွားခဲ့သည်။ ထိုစစ်ပွဲကြီးတွင် စလ်ဂျူကီစစ်တပ်အနိုင်ရခဲ့ပြီး ဘာဇင်တိုင်းဘုရင် အဖမ်းခံခဲ့ရသည်။ စလ်ဂျူကီတို့ကို နှစ်စဉ်အခွန်ငွေဆက်သရမည်၊ မွတ်စ်လင်မ်စစ်သုံ့ပန်းများကို လွှတ်ပေးရမည် ဟူသောစည်းကမ်းချက်များနှင့် နှစ် (၅၀) စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုခဲ့ပြီး ဘာဇင်တိုင်းဘုရင်ကို ပြန်လွှတ်ပေးခဲ့သည်။ ထိုစစ်ပွဲတွင် အနိုင်ရရှိခြင်းကြောင့် စလ်ဂျူကီတို့ ပိုမိုအင်အား

တောင့်တင်းလာပြီး ဘာဇင်တိုင်းအင်ပါယာပိုင် ဗဟိုအာရှဒေသမှ နယ်မြေအချို့ကိုပါ ရရှိခဲ့သည်။

ဟိဂျ်ရီ (၄၆၅) ခုနှစ်တွင် စလ်ဂျူကီဘုရင် အလဘ်အရ်စလာန်း လုပ်ကြံသတ်ဖြတ်ခံခဲ့ရသည်။ အလဘ်အရ်စလာန်းကို ဆက်ခံသူ မလိက်ရှားဟ်လက်ထက်တွင်လည်း စလ်ဂျူကီတို့အင်အားတောင့်တင်းပြီး ပိုင်ဆိုင်သည့်နယ်မြေများ ပိုမိုကျယ်ဝန်းလာခဲ့သည်။ ရှာမ်ဒေသတစ်ခုလုံးကို ဖွာသွေမီယာများထံမှ တိုက်ခိုက်သိမ်းယူနိုင်ခဲ့သည်။ ဘုရင်မလိက်ရှားဟ်သည် ကျယ်ဝန်းသောစလ်ဂျူကီအင်ပါယာကို နိုင်နင်းစွာ အုပ်ချုပ်ခဲ့သည်။ မလိက်ရှားဟ်ကွယ်လွန်ပြီးနောက် စလ်ဂျူကီတို့ တဖြည်းဖြည်းစည်းလုံးမှု ပြိုကွဲလာခဲ့သည်။ ထို့နောက် ဟိဂျ်ရီ (၅၄၈) ခုနှစ်၊ ခရစ်နှစ် (၁၁၅၃) ခုနှစ်တွင် စလ်ဂျူကီမင်းဆက် အဆုံးသတ်သွားခဲ့သည်။ စလ်ဂျူကီခေတ်တွင် ဘုရင် (၁၉) ဦး အုပ်ချုပ်ခဲ့သည်။

စလ်ဂျူကီဘုရင်နှစ်ပါးဖြစ်သည့် အလဘ်အရ်စလာန်းနှင့် မလိက်ရှားဟ်တို့၏ ဝန်ကြီးဖြစ်သူ နေဇ္ဇာမွလ်မလိက်သည် နာမည်ကျော် နေဇ္ဇာမီယာစာသင်ကျောင်းများကို တည်ထောင်ခဲ့သူဖြစ်သည်။ စာကြည့်တိုက်ကြီးများနှင့် တွဲဖွင့်ထားသော နေဇ္ဇာမီယာကျောင်းတော်များ အင်ပါယာနှံ့ပေါ်ပေါက်ခဲ့သည်။ ပညာရှင်များကို ထောက်ပံ့ပေးခဲ့သည်။ စလ်ဂျူကီတို့သည် စွန္နီအယူဝါဒကို ပြန်လည်ပြန့်ပွားအောင် ဆောင်ရွက်ခဲ့ပြီး အရှေ့တိုင်းအစ္စလာမ့်နယ်မြေများကို ပြန်လည်ပေါင်းစည်းပေးနိုင်ခဲ့သည်။

# အပိုင်း (၇)

# ခရူးဆိတ်စစ်ပွဲများ

# (ဟိဂျ်ရီ ၄၉၀ - ၆၇၀) (ခရစ်နှစ် ၁၀၉၆ - ၁၂၇၂)

**ခရူးဆိတ်စစ်ပွဲများဖြစ်ပွားရခြင်း၏ အကြောင်းအရင်း**

ဗဟိုအာရှဒေသကို စလ်ဂျူကီတို့သိမ်းယူပြီးနောက် ဘာဇင်တိုင်းအင်ပါယာသည် စလ်ဂျူကီတို့ အင်အားကြီးမားလာမှုကို စိုးရိမ်လာခဲ့သည်။ ထို့ကြောင့် စလ်ဂျူကီတို့သည် ခရစ်ယာန်ဘုရားဖူးများကို ညှင်းပန်းနှိပ်စက်နေပါသဖြင့် ဂျေရုစလင်သို့ ဘုရားဖူးခရီးလမ်းသည် မလုံခြုံတော့ပါဟု ဗာတီကန်ရှိ ခရစ်ယာန်ပုပ်ရဟန်းမင်းကြီးဂရေဂိုရီ (၇) ထံ ဘာဇင်တိုင်းဘုရင်က တင်ပြခဲ့သည်။ ထိုအခါ ပုပ်ရဟန်းမင်းကြီးက ရောမလက်အောက်မှခွဲထွက်သွားသော ဘာဇင်တိုင်းအော်သိုဒေါ့ခရစ်ယာန်အုပ်စုကို ရောမဩဇာအောက်သို့ ပြန်လည်သွတ်သွင်းရန် အခွင့်အရေးအဖြစ် သုံးသပ်မိပြီး ဘာဇင်တိုင်းအင်ပါယာကို အကူအညီပေးရန်လက်ခံခဲ့သည်။ ထို့ကြောင့် ပုပ်ရဟန်းမင်းကြီးသည် ဥရောပခရစ်ယာန်တိုင်းပြည် အသီးသီးရှိစစ်တပ်များကို စုစည်းကာ ဘာဇင်တိုင်းအင်ပါယာနှင့် ပူးပေါင်းပြီး စလ်ဂျူကီတို့ကို ဗဟိုအာရှဒေသမှ တိုက်ထုတ်ရန် ရည်ရွယ်ခဲ့သည်။ သို့သော် ပုပ်ရဟန်းမင်းကြီးနှင့် ဂျာမဏီဘုရင် ဟင်နရီ (၄) တို့ ပြဿနာဖြစ်ပွားခဲ့သောကြောင့် ပုပ်ရဟန်းမင်းကြီး၏ အကြံအစည် အထမမြောက်ခဲ့ပါ။

ထိုအချိန်တွင် စလ်ဂျူကီတို့သည် စစ်အင်အားကြီးမားပြီး ကျယ်ပြန့်သောအင်ပါယာတစ်ခုကို တည်ထောင်အုပ်ချုပ်နေပြီဖြစ်

သည်။ ထို့နောက်ဘာဇင်တိုင်းဘုရင်သည် ပုပ်ရဟန်းမင်းကြီးအာဘန် (၂) ထံ ထပ်မံအကူအညီတောင်းခံခဲ့သည်။ ခရစ်ယာန်ဘုရားဖူးများသည် စလ်ဂျူကီတို့၏ ညှင်းပန်းမှုများကို အလူးအလဲခံစားနေကြရကြောင်း ဥရောပတစ်ခွင်၌ သတင်းလွှင့်ခဲ့သည်။ ဂျေရုစလင်ကို မွတ်စ်လင်မ်တို့လက်ဝယ်မှ သိမ်းပိုက်ရန် အရေးကြီးပြီဖြစ်ကြောင်း ပုပ်ရဟန်းမင်းကြီးကလည်း ဥရောပဘုရင်များနှင့် ပြည်သူများကို ရည်ရွယ်ပြီး မိန့်ခွန်းပြောခဲ့သည်။

ပြည်တွင်းစစ်ကြောင့် စီးပွားရေးချွတ်ခြုံကျနေခြင်းကို ကုစားနိုင်ရန် ကြွယ်ဝချမ်းသာသော အရှေ့တိုင်း၏ ဓနဥစ္စာများကို သိမ်းပိုက်ပြီး ကိုလိုနီနယ်များတည်ထောင်နိုင်မည့် အခွင့်အရေးဟု ဥရောပဘုရင်များနှင့် မြေရှင်ကြီးများက ယူဆကြသည်။ ပုပ်ရဟန်းမင်းကြီးကလည်း မိမိ၏သြဇာအာဏာကို ပြန်လည်ရယူနိုင်ရန် အခွင့်အရေးတစ်ရပ်အဖြစ် ယူဆပြီး အစွမ်းကုန်လှုံ့ဆော်ခဲ့သည်။ စီးပွားရေးသမားများနှင့် ကုန်သည်တို့ကလည်း အရှေ့တိုင်းကုန်သွယ်ရေးလမ်းကြောင်းများကို ထိန်းချုပ်နိုင်ရန်ရည်ရွယ်ပြီး လိုအပ်သည်တို့ကို ထောက်ပံ့ကြသည်။ ထို့ကြောင့် ခရူးဆိတ်စစ်ပွဲများသည် ပြည်သူလူထု၏ ဘာသာရေးချစ်စိတ်ကို အသုံးချပြီး ကိုယ်ကျိုးစီးပွားရှာလိုသော ခေါင်းဆောင်များက ဖော်ဆောင်ခဲ့သော စစ်ပွဲများဖြစ်သည်ဟု ဆိုနိုင်သည်။

## ခရူးဆိတ်စစ်ပွဲများဖြစ်ပွားပုံအဆင့်ဆင့်

### ပထမခရူးဆိတ်စစ်ပွဲ

ဟိဂ်ျရီ (၄၉၁) ခုနှစ်၊ ခရစ်နှစ် (၁၀၉၇) ခုနှစ်တွင် ဥရောပစစ်တပ်များသည် ဘာဇင်တိုင်းအင်ပါယာမြို့တော် ကွန်စတန်တီနိုပယ်မြို့တွင် စုရုံးခဲ့ကြသည်။ ထိုအချိန်တွင် အစ္စလာမ့်ကမ္ဘာသည် အင်အားစု

တစ်ခုအသွင်ရှိမနေတော့ပေ။ အီရတ်တွင် စလ်ဂျူကီခေါင်းဆောင်များ စည်းလုံးမှုပြိုကွဲနေပြီး ရှာမ်ဒေသရှိအုပ်ချုပ်သူများသည်လည်း စလ်ဂျူကီတို့နှင့် ပူပေါင်းခြင်းမရှိတော့ဘဲ သီးသန့်ရပ်တည်နေကြပြီဖြစ်သည်။ အီဂျစ်ရှိ ဖာသွေမီယာတို့သည်လည်း အင်အားယုတ်လျော့ကျဆင်းနေကြသည်။ ကွန်စတန်တီနိုပယ်တွင် ဥရောပမှ ခရူးဆိတ်ဒါအင်အားလေးသောင်းခန့်စုစည်းမိခဲ့ကြသည်။ ထိုစုပေါင်းတပ်ကြီးသည် ရှာမ်နှင့်ပါလက်စတိုင်းဒေသသို့ ချီတက်လာခဲ့ကာ စလ်ဂျူကီများကို တိုက်ခိုက်ပြီး ဟိဂျ်ရီ (၄၉၂) ခုနှစ်၊ ခရစ်နှစ် (၁၀၉၈) ခုနှစ် အန်သွာကီယာမြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ ထို့နောက် ရဟာမြို့ကို ဆက်လက်တိုက်ခိုက်သိမ်းပိုက်ပြီး ဂျေရုစလင်မြို့သို့ ချီတက်လာခဲ့သည်။

ဂျေရုစလင်မြို့ရှိ ဖွာသွေမီယာတပ်များသည် ခရူးဆိတ်စစ်တပ်၏ ဝိုင်းရံပိတ်ဆို့တိုက်ခိုက်မှုကို တစ်လကျော် ကြံ့ကြံ့ခံကာကွယ်ခဲ့ကြသည်။ သို့သော် ခရစ်နှစ် (၁၀၉၉) ခုနှစ် ဂျူလိုင် (၁၅) ရက်နေ့တွင် အင်အားအဆမတန်သာလွန်သော ခရူးဆိတ်စစ်တပ်သည် ဂျေရုစလင်မြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ ထို့နောက် ဂျေရုစလင်မြို့နေ မွတ်စ်လင်မ်တို့ကို ကလေး၊ လူကြီးမကျန် သတ်ဖြတ်ခဲ့သည်။ အက်ဆွာဝတ်ကျောင်းတော်ရင်ပြင်တစ်ခုထဲတွင် မွတ်စ်လင်မ်ခုနှစ်သောင်း အသတ်ခံခဲ့ရသည်။ တစ်ပတ်တိတိ ခရူးဆိတ်စစ်တပ်သည် သတ်ဖြတ်ခြင်းနှင့် မီးရှို့ဖျက်ဆီးခြင်းများပြုလုပ်ပြီး ဂျေရုစလင်အခြေစိုက် ခရစ်ယာန်ကုဒ္ဒတ်စ်နိုင်ငံကို တည်ထောင်ခဲ့သည်။

ပထမခရူးဆိတ်ထိုးစစ်၏ ရလဒ်အနေဖြင့် ခရူးဆိတ်စစ်တပ်သည် ဂျေရုစလင်၊ အန်သွာကီယာ၊ ရဟာနှင့် ထရီပိုလီတို့ကို သိမ်းပိုက်နိုင်ခဲ့ပြီး ခရစ်ယာန်မြို့ပြနိုင်ငံများအဖြစ် တည်ထောင်အုပ်ချုပ်ခဲ့သည်။ အီတလီရေတပ်အကူအညီဖြင့် ရှာမ်ဒေသရှိ မြေထဲပင်လယ်ဆိပ်ကမ်းတို့ကိုလည်း သိမ်းပိုက်နိုင်ခဲ့သည်။ ထို့ကြောင့် ခရူးဆိတ်

စစ်တပ် သိမ်းပိုက်အုပ်ချုပ်ထားသော အရှေ့တိုင်းခရစ်ယာန်နိုင်ငံများသည် ဥရောပဒေသနှင့် လွတ်လပ်စွာ ဆက်သွယ်သွားလာနိုင်ခဲ့ပြီး ဂျီနိုအာနှင့် ဗင်းနစ်မြို့အခြေစိုက်ကုန်သွယ်ရေး လှုပ်ရှားမှုများတွင် ပါဝင်နိုင်ခဲ့သည်။

## ဒုတိယခရူးဆိတ်စစ်ပွဲ

ဟိဂ်ျရီ (၅၃၈) ခုနှစ်၊ ခရစ်နှစ် (၁၁၄၄) ခုနှစ်တွင် မိုဆူးလ်မြို့အုပ်ချုပ်ရေးမှူးအေမာဒ္ဒင်းနိဇန်ကီက ခရူးဆိတ်စစ်တပ်သိမ်းပိုက်ထားသော ရုဟာမြို့ကို ပြန်လည်သိမ်းယူခဲ့သည်။ ထိုအခါ ဥရောပနိုင်ငံတို့က အရှေ့တိုင်းခရစ်ယာန်မြို့ပြနိုင်ငံများကို ကာကွယ်ရန် ပြန်လည်လှုပ်ရှားလာခဲ့ပြီး ဒုတိယခရူးဆိတ်စစ်ပွဲအတွက် ပြင်ဆင်ခဲ့ကြသည်။ ခရစ်နှစ် (၁၁၄၇) ခုနှစ်တွင် ဂျာမဏီနှင့် ပြင်သစ်တို့ပူးပေါင်းထားသော ခရူးဆိတ်စစ်တပ်များ ရှာမ်ဒေသသို့ ချီတက်လာပြီး ဒမက်စကပ်မြို့ကို ဝန်းရံတိုက်ခိုက်ခဲ့ကြသည်။ ဒမက်စကပ်မြို့စောင့်တပ်၏ ရဲရဲရင့်ရင့် ခုခံတိုက်ခိုက်မှုနှင့် အေမာဒ္ဒင်းနိဇန်ကီပေးပို့သော စစ်ကူများကြောင့် ဒမက်စကပ်ကို ခရူးဆိတ်တပ်များ သိမ်းပိုက်နိုင်ခြင်းမရှိခဲ့ပါ။ ထို့အပြင် စလ်ဂျူကီတပ်များ၏ စဉ်ဆက်မပြတ် ထိုးစစ်ဆင်မှုများကြောင့် ခရူးဆိတ်တပ်များ ပြန်လည်ဆုတ်ခွာသွားခဲ့ရသည်။

## တတိယခရူးဆိတ်စစ်ပွဲ

ခရစ်နှစ် (၁၁၈၇) ခုနှစ်တွင် နာမည်ကျော် ဟိသ္သိဦးန်စစ်ပွဲ ဖြစ်ပွားခဲ့သည်။ ဆွလာဟုဒ္ဒင်းန်အိုင်ယူဘီ ခေါင်းဆောင်သော အိုင်ယူဘီ စစ်တပ်သည် ထိုစစ်ပွဲတွင် အနိုင်ရရှိပြီး ဂျေရုစလင်ကို ပြန်လည်

သိမ်းယူနိုင်ခဲ့သည်။ ထို့ကြောင့် ပုပ်ရဟန်းမင်းကြီး ဂရေဂိုရီ (၈) က ခရူးဆိတ်စစ်ပွဲအတွက် ပြင်ဆင်ရန် လှုံ့ဆော်ခဲ့သည်။ အင်္ဂလန်၊ ပြင်သစ်နှင့် ဂျာမဏီစစ်တပ်များ ပူးပေါင်းထားသော ခရူးဆိတ်စစ်တပ်ကြီးကို စုစည်းခဲ့ကြသည်။ ခရူးဆိတ်သမိုင်းတွင် အင်အားအကြီးဆုံး စစ်တပ်ကြီးဖြစ်ခဲ့သည်။ သို့သော် ခရူးဆိတ်စစ်တပ်ကြီးသည် ဆွလာ ဟွဒ္ဒီးန်အိုင်ယူဘီဦးဆောင်သော အိုင်ယူဘီစစ်တပ်ကို အနိုင်မရရှိခဲ့ပါ။ ဤတတိယခရူးဆိတ်စစ်ပွဲသည် ခရစ်နှစ် (၁၁၈၉) ခုနှစ်မှ ခရစ်နှစ် (၁၁၉၂) ခုနှစ်အထိကြာရှည်ခဲ့သည်။ နောက်ဆုံးတွင် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုပြီး ခရူးဆိတ်စစ်တပ် ဆုတ်ခွာသွားခဲ့သည်။

**စတုတ္ထခရူးဆိတ်စစ်ပွဲ**

ခရစ်နှစ် (၁၂ဝ၂) ခုနှစ်တွင် ပုပ်ရဟန်းမင်းကြီး အင်နိုဆင့် (၃) ၏ လှုံ့ဆော်မှုအရ အီဂျစ်ဒေသရှိ အိုင်ယူဘီတို့ကို တိုက်ခိုက်ပြီး ပါလက်စတိုင်းဒေသကို သိမ်းပိုက်ရန်ရည်ရွယ်ပြီး ခရူးဆိတ်စစ်တပ် ချီတက်လာခဲ့ကြသည်။ သို့သော် ဆက်လက်မချီတက်ဘဲ ခရူးဆိတ် စစ်တပ်ခေါင်းဆောင်တစ်ဦးဖြစ်သည့် အလက်စီယိုသည် နန်းချခံထား ရသော မိမိဖခင်အိန်ဂျလိုကို ပြန်လည်နန်းတင်ပေးရန်အတွက် ခရူးဆိတ်စစ်တပ်ကို ဘာဇင်တိုင်းအင်ပါယာမြို့တော် ကွန်စတန်တီ နိုပယ်သို့ ခေါ်ဆောင်သွားသည်။ ခရူးဆိတ်စစ်တပ်ကို ဘာဇင်တိုင်း အင်ပါယာမှ လိုအပ်သောအင်အားများ ဖြည့်တင်းပေးမည်ဟူ၍ ကတိပြု ပြီး ခေါ်ဆောင်သွားခြင်းဖြစ်သည်။

ခရစ်နှစ် (၁၂ဝ၃) ဂျူလိုင်လတွင် ကွန်စတန်တီနိုပယ်သို့ ခရူးဆိတ်စစ်တပ်ရောက်ရှိခဲ့သည်။ ဖြုတ်ချခံထားရသော ဘုရင်ဟောင်း အိန်ဂျလိုကို ပြန်လည်နန်းတင်ခဲ့သည်။ သို့သော် ဩဂုတ်လတွင် ဘုရင်

အိန်ဂျလိုထပ်မံဖြုတ်ချခံရပြီး သားဖြစ်သူအလက်စီယို ဘုရင်ဖြစ်လာခဲ့သည်။ ခရစ်နှစ် (၁၂၀၄) ခုနှစ်တွင် ဘုရင်အလက်စီယို အသတ်ခံရသောကြောင့် ခရူးဆိတ်စစ်တပ်ကို ကတိပေးထားသော အင်အားဖြည့်တင်းရေးအစီအစဉ် ပျက်ပြားသွားခဲ့သည်။ ထိုအခါခရူးဆိတ်စစ်တပ်သည် ကွန်စတန်တီနိုပယ်မြို့တော်ကို တိုက်ခိုက်လုယက်ကြတော့သည်။

ဤခရူးဆိတ်ထိုးစစ်သည် ရည်ရွယ်ထားသော ရလဒ်တို့ကို မဖော်ဆောင်နိုင်ခဲ့ဘဲ အချင်းချင်း စည်းလုံးမှုပြိုကွဲပြီး ဘာဇင်တိုင်းအင်ပါယာ အင်အားချိနဲ့သွားခြင်းဟူသော ရလဒ်သာ ရရှိခဲ့သည်။

**ပဥ္စမခရူးဆိတ်စစ်ပွဲ**

ဟန်ဂေရီဘုရင် အင်ဒရူး (၂) ဦးဆောင်ပြီး ဂျေရုစလင်နှင့် အရှေ့တိုင်းအစ္စလာမ့်နယ်မြေများကို တိုက်ခိုက်သိမ်းပိုက်ရန် ခရူးဆိတ်စစ်တပ်များ ချီတက်လာပြီး ခရစ်နှစ် (၁၂၁၉) ခုနှစ်တွင် အီဂျစ်ဒေသသို့ ရောက်ရှိလာခဲ့သည်။ အီဂျစ်နိုင်ငံ ဒမီတာမြို့ကို သိမ်းပိုက်နိုင်ခဲ့သည်။ ခရစ်နှစ် (၁၂၂၁) ခုနှစ်တွင် မန်စူရာမြို့ကို ဆက်လက်တိုက်ခိုက်ခဲ့သည်။ မမာလိက်ဘုရင်ကာမိလ်က ခရူးဆိတ်စစ်တပ်ကို စစ်ပြေငြိမ်းရန် ကမ်းလှမ်းခဲ့သော်လည်း ခရူးဆိတ်စစ်တပ်က လက်မခံခဲ့ပေ။ ထိုအခါ ဘုရင်ကာမိလ်က စစ်ကူများပေးပို့ပြီး ဆက်လက်ခုခံတိုက်ခိုက်စေခဲ့သည်။ မွတ်စ်လင်မ်တပ်များက အဘက်ဘက်မှ ဝန်းရံပိတ်ဆို့ထားပြီး နိုင်းလ်မြစ်ရေလျှံသည့်အချိန် ရောက်လာသည့်အခါ ခရူးဆိတ်စစ်တပ်လည်း ဆက်လက်တောင့်ခံ မထားနိုင်တော့ဘဲ ဘုရင်ကာမိလ်ထံ စစ်ပြေငြိမ်းရေးအတွက် ကမ်းလှမ်းလာခဲ့သည်။ ဘုရင်ကာမိလ်က လက်ခံခဲ့ပြီး ခရူးဆိတ်စစ်တပ်နှင့် (၈) နှစ်တာ စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုခဲ့သည်။ ထို့နောက် ခရူးဆိတ်တပ်များ ပြန်လည်ဆုတ်ခွာသွားခဲ့သည်။

## ဆဋ္ဌမခရူးဆိတ်စစ်ပွဲ

ဂျာမဏီဘုရင်ဖရက်ဒရစ် (၂) ဦးဆောင်သော ခရူးဆိတ်စစ်တပ်များသည် ခရစ်နှစ် (၁၂၂၈) ခုနှစ်တွင် ဂျေရုစလင်ကို သိမ်းပိုက်ရန်အတွက် ချီတက်လာခဲ့ကြသည်။ မမာလိက်ဘုရင်ကာမိလ်နှင့် စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုခဲ့ပြီး ဂျေရုစလင်ကို ခရူးဆိတ်တပ်များ ရရှိခဲ့သည်။ သို့သော် ဘုရင်ကာမိလ်ကွယ်လွန်ပြီးနောက် သားဖြစ်သူဘုရင်အိုင်ယူးဗ်လက်ထက် ခရစ်နှစ် (၁၂၄၄) ခုနှစ်တွင် ဂျေရုစလင်ကိုမွတ်စ်လင်မ်တို့ ပြန်လည်သိမ်းယူခဲ့သည်။

## သတ္တမခရူးဆိတ်စစ်ပွဲ

ခရစ်နှစ် (၁၂၄၈) ခုနှစ်တွင် ပြင်သစ်ဘုရင် လူးလစ် (၉) ဦးဆောင်သော ခရူးဆိတ်စစ်တပ်များ အီဂျစ်ဒေသသို့ ချီတက်လာခဲ့သည်။ ခရစ်နှစ် (၁၂၄၉) ခုနှစ်တွင် အီဂျစ်နိုင်ငံ ဒမီတာမြို့ကို သိမ်းပိုက်ခဲ့သည်။ ခရူးဆိတ်တပ်များသည် ဒမီတာမြို့ကို ခြေကုပ်ယူကာဆက်လက်ထိုးစစ်ဆင်ရန်အတွက် ပြင်ဆင်နေခဲ့သည်။ ထို့နောက်ကိုင်ရိုမြို့သို့ ချီတက်လာခဲ့ကြသည်။ မမာလိက်တပ်များကလည်းမန်စူရာမြို့ကို ခြေကုပ်ယူပြီး ခုခံစစ်အတွက် စနစ်တကျ ပြင်ဆင်ထားခဲ့သည်။ မန်စူရာတိုက်ပွဲတွင် ခရူးဆိတ်တပ်များ ရှုံးနိမ့်ခဲ့သည်။ ခရစ်နှစ် (၁၂၅၀) ခုနှစ်တွင် ခရူးဆိတ်စစ်တပ်ခေါင်းဆောင် ဘုရင်လူးဝစ် (၉) နှင့် အခြားခေါင်းဆောင်များ အဖမ်းခံခဲ့ရသည်။ စစ်လျော်ကြေးနှင့်တကွ ခရူးဆိတ်တပ်များသိမ်းပိုက်ထားသော ဒမီတာမြို့ကို မမလိက်များ ပြန်လည်ရယူနိုင်ခဲ့ပြီး ဘုရင်လူးဝစ် (၉) ကို ပြန်လွှတ်ပေးခဲ့သည်။

## အင္ဌမခရူးဆိတ်စစ်ပွဲ

သတ္တမခရူးဆိတ်စစ်ပွဲတွင် ရှုံးနိမ့်ခဲ့သော ပြင်သစ်ဘုရင်လူးဝစ် (၉) ဦးဆောင်ပြီး တူနီးရှားဒေသကို ခရစ်နှစ် (၁၂၇၀) တွင် တိုက်ခိုက်ခဲ့သည်။ ပူပြင်းသောအာဖရိကဒေသ၏ ကပ်ရောဂါများ ခရူးဆိတ်စစ်တပ်အတွင်း ကူးစက်ပြန့်နှံ့သွားခဲ့ရာ ခေါင်းဆောင်ဘုရင် လူးဝစ် (၉) ကိုယ်တိုင် ကပ်ရောဂါကြောင့် သေဆုံးသွားခဲ့သည်။ ခရူးဆိတ်စစ်တပ်သည် စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုပြီး ပြန်လည် ဆုတ်ခွာခဲ့ရသည်။

## ခရူးဆိတ်စစ်ပွဲများ၏ အကျိုးသက်ရောက်မှု

ခရူးဆိတ်စစ်ပွဲများဖြစ်ပွားခဲ့သည့် အချိန်ကာလတွင် ဥရောပ တိုက်သည် ပညာရေး၊ စီးပွားရေး၊ ယဉ်ကျေးမှု၊ လူမှုရေးနှင့် အခြားကဏ္ဍအသီးသီးတွင် ခေတ်နောက်ကျနေဆဲဖြစ်သည်။ ထိုအချိန် တွင် အရှေ့တိုင်းအစ္စလာမ့်နိုင်ငံများသည် အဆင့်မြင့်ပညာရေး၊ စီးပွား ရေးဖွံ့ဖြိုးတိုးတက်မှု၊ ကြွယ်ဝချမ်းသာမှု၊ မြင့်မားသောလူနေမှုစနစ်နှင့် ခေတ်မီယဉ်ကျေးမှုတို့ကို ပုံဖော်ထားနိုင်ပြီဖြစ်သည်။ ခရူးဆိတ်စစ်ပွဲများ ကြောင့် ဥရောပတိုက်သားများသည် ခေတ်မီဖွံ့ဖြိုးတိုးတက်သော အရှေ့တိုင်းနိုင်ငံများနှင့်ထိတွေ့မိပြီး အမြင်ကျယ်လာခဲ့ကြသည်။ ဥရောပတိုက်သားတို့သည် ခရူးဆိတ်စစ်ပွဲများကြောင့် အောက်ပါအကျိုး အမြတ်များ ရရှိခဲ့ကြသည်။

(၁) ဆေးပညာ၊ နက္ခတ္တဗေဒနှင့် ဗိသုကာပညာရပ်ဆိုင်ရာ အရဗီကျမ်းစာအုပ်များကို ဥရောပသို့ ယူဆောင်သွားနိုင်ခဲ့ကြသည်။ ထိုကျမ်းများကို ဥရောပပညာရှင်များက ဘာသာပြန်ဆိုပြီး အကျိုး ခံစားကြသည်။

(၂) ဆေးရုံစနစ်ကို လေ့လာသင်ယူနိုင်ခဲ့ပြီး (၁၂) ရာစုတွင် ဥရောပ၌ ဆေးရုံများ ဖွင့်လှစ်လာနိုင်ခဲ့သည်။

(၃) အရှေ့တိုင်းမှ အသုံးဝင်သောအပင်မျိုးစိတ်များကို ယူဆောင်သွားကြပြီး ဥရောပတွင် ပြန်လည်စိုက်ပျိုးသုံးစွဲနိုင်ခဲ့ကြသည်။ ဥပမာ စပါး၊ နှမ်း၊ ပေါင်း၊ ကြံ၊ ဖရဲ၊ သံပရာ စသဖြင့်။

(၄) စစ်ရေးသတင်းများကို လျင်မြန်စွာပို့ဆောင်နိုင်ရန်အတွက် စာပို့ခိုများအသုံးပြုသည့် နည်းလမ်းကို သင်ယူအသုံးချနိုင်ခဲ့ကြသည်။ ခံတပ်များကို ဝန်းရံပိတ်ဆို့တိုက်ခိုက်သည့် စစ်ဗျူဟာများနှင့် မီးကျောက်မောင်းများအသုံးပြုသည့်နည်းလမ်းများကိုလည်း သင်ယူအသုံးချနိုင်ခဲ့ကြသည်။

(၅) အရှေ့တိုင်း၏ ပိုမိုကောင်းမွန်သောလူနေမှုစနစ်ကို အတုယူနိုင်ခဲ့ကြသည်။ ဥပမာ အလှအပအဆင်တန်ဆာများနှင့် ရေမွှေးအမျိုးမျိုး သုံးစွဲခြင်း၊ သကြားအသုံးပြု၍ အချိုမုန့်များပြုလုပ်ခြင်း၊ အစားအစာများတွင် ဟင်းခက်အမွှေးအကြိုင်များအသုံးပြုခြင်း၊ ရာသီဥတုနှင့်အညီ ဝတ်စားဆင်ယင်ခြင်း အစရှိသဖြင့်။

(၆) ကုန်သွယ်ရေးဖွံ့ဖြိုးတိုးတက်ခဲ့သည်။ အရှေ့တိုင်းမှထွက်သော ကောဇောများ၊ ဖန်ပစ္စည်းများ၊ အိုးခွက်ပန်းကန်များ စသည့်ပစ္စည်းများကို အရောင်းအဝယ်ပြုလုပ်သည့် ဈေးကွက်ကြီးများ ဥရောပတွင် ပေါ်ပေါက်ခဲ့သည်။

ဖွံ့ဖြိုးတိုးတက်သော အရှေ့တိုင်းအစ္စလာမ့်နိုင်ငံများသည်ကား ခေတ်နောက်ကျနေသော ဥရောပတိုက်သားများထံမှ မည်သည့် အကျိုးအမြတ်မှ ရရှိခဲ့ခြင်းမရှိပေ။

# အပိုင်း (၈)

# မွန်ဂိုတာတာရီတို့၏ထိုးစစ်များ

# (ဟိဂ္ဂျရီ ၆၁၄ - ၈၀၃) (ခရစ်နှစ် ၁၂၁၈ - ၁၄၀၁)

## မွန်ဂိုလူမျိုးဟူသည်

မွန်ဂိုလီးယားဒေသတွင် နေထိုင်ကြသော မျိုးနွယ်စုပေါင်းများစွာပါဝင်သည့် လူမျိုးစုကြီးဖြစ်သည်။ ဒေသတစ်ခုတွင် အခြေချနေထိုင်ကြခြင်းမရှိဘဲ ရွှေ့ပြောင်းလှည့်လည်နေထိုင်ကြပြီး ရက်စက်ကြမ်းကြုတ်၍ အရိုင်းဆန်သည့်လူမျိုးစုဖြစ်သည်။ အိမ်နီးချင်းမျိုးနွယ်များကို အလစ်ဝင်ရောက်တိုက်ခိုက်ပြီး လုယက်သတ်ဖြတ်လေ့ရှိကြသည်။ အချင်းချင်းမသင့်မြတ်ဘဲ အမြဲတိုက်ခိုက်နေလေ့ရှိသော ထိုမျိုးနွယ်စုများကို ဂျန်ဂျစ်ခန်က စုစည်းနိုင်ခဲ့ပြီး ကြီးမားသောအင်အားစုကြီးတစ်ခုအသွင် ပြောင်းလဲနိုင်ခဲ့သည်။ ထို့နောက် ခရစ်နှစ် (၁၂၀၆) ခုနှစ်၊ ဟိဂ္ဂျရီ (၆၀၃) ခုနှစ်တွင် ဘုရင်ဂျန်ဂျစ်ခန်သည် မွန်ဂိုလီးယားဒေသ အိုခုံးမြစ်ကမ်းရှိ ကယ်ကိုရမ်မြို့ကို မြို့တော်အဖြစ်သတ်မှတ်ပြီး မွန်ဂိုလီးယားအင်ပါယာကို တည်ထောင်ခဲ့သည်။

## တရုတ်နိုင်ငံကို တိုက်ခိုက်သိမ်းပိုက်ခြင်း

အင်အားကြီးမားသောမွန်ဂိုစစ်တပ်ကို တည်ထောင်ပြီးနောက် ဘုရင်ဂျန်ဂျစ်ခန်သည် အိမ်နီးချင်းတရုတ်နိုင်ငံကို တိုက်ခိုက်သိမ်းပိုက်ရန် စတင်ကြံရွယ်ခဲ့သည်။ တရုတ်ဘုရင်များသည် ပြည်ပကျူးကျော်မှု

ကို ကာကွယ်ရန်အတွက် တရုတ်မြောက်ပိုင်းမွန်ဂိုလီးယားနယ်စပ်တွင် မဟာတံတိုင်းကြီးကို ရှေးယခင်ကတည်းက တည်ဆောက်ထားခဲ့ကြသည်။ သို့သော် များပြားလွန်းလှသော မွန်ဂိုတာတာရီတို့၏ စစ်အင်အားကို ထိုမဟာတံတိုင်းကြီးလည်း ဟန့်တားနိုင်ခဲ့ခြင်းမရှိပါ။ခရစ်နှစ် (၁၂၁၂) ခုနှစ်တွင် တရုတ်မြောက်ပိုင်းဒေသများ မွန်ဂိုတို့လက်အောက်သို့ ကျရောက်ခဲ့သည်။ ထို့နောက် တဖြည်းဖြည်း တရုတ်နိုင်ငံတစ်နိုင်ငံလုံး မွန်ဂိုတို့လက်အောက်သို့ ကျရောက်သွားခဲ့သည်။

## အစ္စလာမ့်နယ်မြေများကို ထိုးစစ်ဆင်တိုက်ခိုက်ခြင်း

### (၁) ဗဟိုအာရှဒေသ

ထိုအချိန်တွင် ဗဟိုအာရှဒေသ၌ အဗ္ဗာစီယာအင်ပါယာမှခွဲထွက်ပြီး သီးသန့်ရပ်တည်နေသည့် ခဝါရိဇ်ဇင်မ်မင်းဆက် အုပ်ချုပ်နေသည်။ ခိုရာစာန်ဒေသတွင် မွန်ဂိုကုန်သည်အချို့ ဖမ်းဆီးသတ်ဖြတ်ခံရခြင်းကို အကြောင်းခံ၍ ဂျန်ဂျစ်ခန်က ခဝါရိဇ်ဇင်မ်တို့အုပ်ချုပ်သော ဗဟိုအာရှဒေသကို တိုက်ခိုက်ရန် စတင်ကြိုးစားခဲ့သည်။ ခဝါရိဇ်ဇမ် ဘုရင်အား လက်နက်ချအညံ့ခံရန် အကြောင်းကြားခဲ့သည်။ ခဝါရိဇ်ဇင်မ် ဘုရင်အလာအွဒ္ဒီးန်က ထိုအကြောင်းကြားချက်ကို ပယ်ချခဲ့သောကြောင့် မွန်ဂိုတပ်များ ဗဟိုအာရှဒေသသို့ ချီတက်တိုက်ခိုက်ခဲ့သည်။ အင်အားများပြားလွန်းသော မွန်ဂိုစစ်တပ်၏ထိုးစစ်ကို ခဝါရိဇ်ဇင်မ်စစ်တပ် ခုခံကာကွယ်နိုင်စွမ်းမရှိခဲ့ပါ။ ခဝါရိဇ်ဇင်မ်စစ်တပ်များ ရှုံးနိမ့်ပြီး ဘုရင်အလာအွဒ္ဒီးန်လည်း ထွက်ပြေးသွားခဲ့သည်။ မွန်ဂိုတပ်များသည် ဘိုခါရာမြို့ကို ဝင်ရောက်ပြီး မြင်မြင်သမျှလူများကို သတ်ဖြတ်ကာ တစ်မြို့လုံးကို မီးရှို့ဖျက်ဆီးခဲ့သည်။ ထို့နောက် ဗဟိုအာရှဒေသရှိ အခြားမြို့များသို့ ဝင်ရောက်ကာ အစုလိုက်အပြုံလိုက် သတ်ဖြတ်

မီးရှို့ပြီး ဖျက်ဆီးခဲ့ကြသည်။ ခရစ်နှစ် (၁၂၂၀) ခုနှစ်တွင် ဗုဟိုအာရှဒေသနှင့် အီရန်ဒေသမှ နယ်မြေအချို့ကို မွန်ဂိုတို့ သိမ်းပိုက်နိုင်ခဲ့သည်။ ခရစ်နှစ် (၁၂၂၇) ခုနှစ်တွင် ဘုရင်ဂျန်ဂျစ်ခန် ကွယ်လွန်ခဲ့ပြီး သားဖြစ်သူ တူလီခန်း ဘုရင်ဖြစ်လာခဲ့သည်။ ခရစ်နှစ် (၁၂၃၂) ခုနှစ်တွင် ဘုရင်တူလီခန်း ကွယ်လွန်ပြီးနောက် ဟူလာကူးခန်း ဘုရင်ဖြစ်လာခဲ့သည်။

## (၂) အီရတ်နှင့် ရှာမ်ဒေသ

ဘုရင်ဟူလာကူးခန်းသည် အဘိုးဖြစ်သူ ဂျန်ဂျစ်ခန်ကဲ့သို့ ရက်စက်ကြမ်းကြုတ်သူတစ်ဦးဖြစ်သည်။ သူသည်အင်အားကြီးမားသော မွန်ဂိုစစ်တပ်ကိုဦးဆောင်ကာ အီရန်၊ အီရတ်နှင့် ရှာမ်ဒေသများကို တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ မွန်ဂိုစစ်တပ်သည် အဗ္ဗာစီယာအင်ပါယာ မြို့တော်ဘဂ္ဂဒါးဒ်သို့ချီတက်လာပြီး လမ်းတစ်လျှောက်ရှိမြို့ရွာများကို မီးရှို့ဖျက်ဆီးကာ လုယက်သတ်ဖြတ်ခဲ့သည်။ အီရန်နိုင်ငံ ဟမ်ဒါးန်မြို့သို့ ရောက်သောအခါ အဗ္ဗာစီယာဘုရင်မွတ်စ်သအ်ဆွင်မ်ထံ လက်နက်ချ အညံ့ခံရန် အကြောင်းကြားခဲ့သည်။ ထိုအကြောင်းကြားချက်ကို အဗ္ဗာစီယာဘုရင်က လက်မခံဘဲ ခုခံတိုက်ခိုက်ရန်အတွက် ပြင်ဆင်ခဲ့သည်။ အဗ္ဗာစီယာဝန်ကြီးအလ်ကမီသည် သစ္စာဖောက်ပြီး မွန်ဂိုစစ်တပ်နှင့် လျှို့ဝှက်ပူးပေါင်းခဲ့သည်။

## (၃) ဘဂ္ဂဒါးဒ်မြို့ကျဆုံးခြင်း

ဘုရင် ဟူလာကူးခန်းဦးဆောင်သော စစ်အင်အား (၂) သိန်းပါသည့် မွန်ဂိုစစ်တပ်သည် အဗ္ဗာစီယာအင်ပါယာမြို့တော် ဘဂ္ဂဒါးဒ်ကို ခရစ်နှစ် (၁၂၅၈) ခုနှစ်၊ ဟိဂျ်ရီ (၆၅၆) ခုနှစ်တွင် ဝန်းရံပိတ်ဆို့

တိုက်ခိုက်ခဲ့သည်။ ခုခံကာကွယ်နိုင်စွမ်းမရှိသည်ကို သိရသည့်အခါ အဗ္ဗာစီယာဘုရင်က ဘဂ္ဂဒါးဒ်မြို့ကို မွန်ဂိုတို့လက်သို့အပ်မည်၊ မြို့သူမြို့သားတို့၏အသက်၊ အိုးအိမ်၊ စည်းစိမ်တို့ကို ထိပါးနှောက်ယှက်ခြင်း မပြုရဟူသော တောင်းဆိုချက်နှင့်အတူ စစ်ပြေငြိမ်းရန် ကမ်းလှမ်းခဲ့သည်။ ထိုတောင်းဆိုချက်ကို မွန်ဂိုဘုရင်ဟူလာကူးက လက်ခံခဲ့သည်။ မွန်ဂိုစစ်တပ်သည် ဘဂ္ဂဒါးဒ်မြို့ထဲသို့ ဝင်ရောက်လာခဲ့ကြသည်။

မြို့ထဲသို့ရောက်သောအခါ ဘုရင်ဟူလာကူးသည် ကတိချိုးဖောက်ပြီး အဗ္ဗာစီယာဘုရင်နှင့် သားနှစ်ဦးကို သတ်ဖြတ်ခဲ့သည်။ မွန်ဂိုစစ်တပ်ကို စိတ်ကြိုက်လုယက်သတ်ဖြတ်မီးရှို့ခွင့်ပေးခဲ့သည်။ ပညာရှင်များစွာ အသတ်ခံခဲ့ရသည်။ အပြစ်မဲ့ပြည်သူသိန်းပေါင်းများစွာ သတ်ဖြတ်ခံခဲ့ရသည်။ ထိုခေတ်တွင် ကမ္ဘာ့အကြီးဆုံးစာကြည့်တိုက်ကြီးဖြစ်သည့် ဘိုင်သွလ်ဟိက ်မာလည်း မီးရှို့ခံခဲ့ရပြီး စာအုပ်များကို ဒဂ်ျလာမြစ်ထဲသို့ မျောချဖျက်ဆီးခဲ့ကြသည်။ ဘဂ္ဂဒါးဒ်မြို့တော်သည် ပုပ်ပွနေသော လူသေအလောင်းများ ပြန့်ကျဲနေပြီး မီးကျွမ်းနေသော အဆောက်အဦးများနှင့် မြို့ပျက်ကြီးဖြစ်သွားခဲ့သည်။ ဘဂ္ဂဒါးဒ်မြို့ကျဆုံးခြင်းနှင့်အတူ နှစ်ပေါင်း (၅၀၀) ကျော်တည်တံ့ခဲ့သော အဗ္ဗာစီယာအင်ပါယာလည်း ပြိုပျက်ခဲ့သည်။

## (၄) အလက်ပိုနှင့် ဒမက်စကပ်မြို့များကျဆုံးခြင်း

အီရန်နှင့် အီရတ်ဒေသများကို ချေမှုန်းဖျက်ဆီးပြီးနောက် မွန်ဂိုဘုရင်ဟူလာကူးခန်းသည် ရှာမ်ဒေသကို ဆက်လက်ချေမှုန်းဖျက်ဆီးရန် ရည်ရွယ်ခဲ့သည်။ ခရစ်နှစ် (၁၂၆၀) ခုနှစ်၊ ဟိဂျ်ရီ (၆၅၈) ခုနှစ်တွင် အလက်ပိုမြို့ကို မွန်ဂိုတပ်များ ဝန်းရံပိတ်ဆို့တိုက်ခိုက်ကြသည်။ ဘုရင်ဟူလာကူးခန်းက မြို့သူမြို့သားများကို အသက်ချမ်းသာပေးမည်

ဟု ကတိပေးသောကြောင့် မြို့စောင့်တပ်များက အလက်ပိုမြို့တံခါးများကို ဖွင့်ပေးခဲ့ကြသည်။ ဟူလာကူးခန်းသည် ကတိမတည်ဘဲ မွန်ဂိုတပ်များ မြို့ထဲသို့ဝင်ရောက်ပြီးသောအခါ စိတ်ကြိုက်လုယက်သတ်ဖြတ်ခွင့်ပေးခဲ့သည်။ ထို့နောက် ဟူလာကူးခန်းသည် ဒမက်စကပ်ကို ဆက်လက်ချေမှုန်းဖျက်ဆီးရန်အတွက် မွန်ဂိုတပ်မှူးတစ်ဦးဖြစ်သည့် ကသဘ်ဂါကိုခေါင်းဆောင်ခန့်ကာ မွန်ဂိုစစ်တပ်တစ်တပ်ကို ဒမက်စကပ်မြို့သို့ စေလွှတ်ခဲ့သည်။ ထိုမွန်ဂိုစစ်တပ်သည် ဒမက်စကပ်မြို့ကို ချီတက်တိုက်ခိုက်ပြီး လုယက်သတ်ဖြတ်မီးရှို့ခဲ့သည်။

ထို့နောက်ဘုရင်ဟူလာကူးသည် အီဂျစ်ဒေသအခြေစိုက် မမာလိက်မင်းဆက်ဘုရင် ဆိုင်ဖွဒ္ဒီးန်ကုသွဇ်ထံသို့ လက်နက်ချအညံ့ခံရန် ခြိမ်းခြောက်စာတစ်စောင် ပို့လိုက်သည်။ ထိုအခါမမာလိက်ဘုရင်က မခံမရပ်နိုင်ဖြစ်ပြီး မွန်ဂိုတပ်များကို ရန်ဆိုင်တိုက်ခိုက်ရန် ပြင်ဆင်ခဲ့သည်။ ထိုအချိန်တွင် အီရန်ရှိ ဘုရင်ဟူလာကူးခန်း၏အစ်ကို ကွယ်လွန်သောကြောင့် ဟူလာကူးသည် ကသဘ်ဂါကို ကိုယ်စားလှယ်အဖြစ်လွှဲအပ်ခဲ့ပြီး အီရန်သို့ပြန်သွားခဲ့သည်။ နောက် (၅) နှစ်အကြာ ခရစ်နှစ် (၁၂၆၅) ခုနှစ်တွင် ဘုရင်ဟူလာကူးခန်း ကွယ်လွန်သွားခဲ့သည်။

### အိုင်နေဂျာလူးသ် (သို့) မွန်ဂိုတို့၏ပထမဆုံးအရှုံး

ရှာမ်ဒေသကို တိုက်ခိုက်ချေမှုန်းပြီးနောက် မွန်ဂိုတို့၏ပစ်မှတ်သည် မမာလိက်မင်းဆက်အုပ်စိုးနေသည့် အီဂျစ်ဒေသဖြစ်လာခဲ့သည်။ စစ်သူကြီး ကသဘ်ဂါခေါင်းဆောင်သောမွန်ဂိုစစ်တပ်သည် ရှာမ်ဒေသမှ ချီတက်လာခဲ့ပြီး ဂါဇာကမ်းမြောင်ဒေသတွင် စခန်းချခဲ့သည်။ မမာလိက်စစ်တပ်များနှင့် ရှာမ်ဒေသမှ ဆုတ်ခွာလာခဲ့သော မွတ်စ်လင်မ်စစ်တပ်များ ပူးပေါင်းကာ ဂါဇာဘက်သို့ ချီတက်လာခဲ့သည်။ ဂါဇာကမ်း

မြောင်နှင့် ကီလိုမီတာ (၅၀) ခန့်အကွာတွင် တပ်မှူးဘိုင်ဘရက်စ် ခေါင်းဆောင်သော မွတ်စ်လင်မ်ရှေ့ပြေးတပ်များနှင့် မွန်ဂိုတို့ တိုက်ပွဲ ဖြစ်ပွားခဲ့သည်။ ထိုတိုက်ပွဲတွင် မွန်ဂိုစစ်တပ်ကို မွတ်စ်လင်မ်တို့ ပထမဆုံးအကြိမ် အနိုင်ရခဲ့သည်။ မမာလိက်ဘုရင်ဆိုင်ဖွဒ္ဒီးန်ကုသွဇ် ခေါင်းဆောင်သော မမာလိက်တပ်မတော်သည် ပါလက်စတိုင်း လမ်းကြောင်းမှတဆင့် ရှာမ်ဒေသသို့ ဦးတည်ချီတက်လာခဲ့သည်။

ခရစ်နှစ် (၁၂၆၀) ခုနှစ်၊ ဟိဂျ်ရီ (၆၅၈) ခုနှစ်တွင် ပါလက် စတိုင်းဒေသရှိ အိုင်နေဂျာလူးသ်အမည်ရနေရာတွင် မမာလိက် တပ်မတော်နှင့် မွန်ဂိုစစ်တပ်အကြား ပြင်းထန်သောတိုက်ပွဲကြီး ဖြစ်ပွား ခဲ့သည်။ ဤစစ်ပွဲကြီးတွင် မွန်ဂိုစစ်သူကြီး ကသဘ်ဂါအသတ်ခံခဲ့ရပြီး မမာလိက်စစ်တပ်အနိုင်ရခဲ့သည်။ သာလွန်စစ်အင်အားနှင့် ဆက်တိုက် ထိုးစစ်ဆင်လာခဲ့သည့် မွန်ဂိုစစ်တပ်၏ ပထမဆုံးအရှုံးဖြစ်သည်။ မမာလိက်စစ်တပ်သည် မွန်ဂိုတပ်ပြေးများကို လိုက်လံသုတ်သင် ရှင်းလင်းရင်း ဒမက်စကပ်မြို့အထိရောက်ရှိလာခဲ့သည်။ ဒမက်စကပ်နှင့် အလက်ပိုမြို့ရှိ မွန်ဂိုများကို တိုက်ထုတ်ပြီး မမာလိက်စစ်တပ်သည် ရှာမ်ဒေသကို မွန်ဂိုတို့လက်မှ လွတ်မြောက်အောင် စွမ်းဆောင် ပေးနိုင်ခဲ့သည်။

အိုင်နေဂျာလူးသ်စစ်ပွဲသည် သမိုင်းဝင်စစ်ပွဲတစ်ခုဖြစ်ခဲ့သည်။ အဘယ်ကြောင့်ဆိုသော် မွန်ဂိုဘုရင် ဂျန်ဂျစ်ခန်လက်ထက်မှစ၍ ရှုံးပွဲမရှိသေးသော မွန်ဂိုစစ်တပ်ကို ပထမဆုံးအကြိမ်အနိုင်ရပြီး မြေထဲ ပင်လယ်ဒေသကို မွန်ဂိုတို့ရန်မှ ကယ်တင်ပေးနိုင်ခဲ့သောကြောင့်ဖြစ် သည်။

## မွန်ဂိုတို့ ပြန်လည်ထကြွလာခြင်းနှင့် နိဂုံးချုပ်ခြင်း

ရှာမ်ဒေသမှ မွန်ဂိုတို့ပြန်လည်ဆုတ်ခွာခဲ့ပြီး နှစ်ပေါင်း (၁၂၀) ခန့်အကြာတွင် မွန်ဂိုဘုရင်သိုင်မူးလန့် ပေါ်ထွက်လာခဲ့သည်။ ဘုရင်သိုင်မူးလန့်သည် ဘုရင်ဂျန်ဂျစ်ခန် တည်ထောင်ခဲ့သော ကျယ်ဝန်းသည့် မွန်ဂိုအင်ပါယာကို ပြန်လည်တည်ထောင်ရန် ကြိုးစားခဲ့သည်။ ဘုရင်သိုင်မူးလန့်သည် စမရ်ကန့်မြို့တွင်အခြေချပြီး အာရှနိုင်ငံများကို တိုက်ခိုက်သိမ်းပိုက်ရန်အတွက် မွန်ဂိုစစ်တပ်များကို စေလွှတ်ခဲ့သည်။ ထိုအချိန်တွင် ဗဟိုအာရှဒေသနှင့် ဘော်လကန်မြောက်ပိုင်းဒေသများသည် အွစ်မာနီယာအင်ပါယာ၏အုပ်ချုပ်မှုအောက်တွင် ရှိနေပြီဖြစ်သည်။

ခရစ်နှစ် (၁၃၈၀) ခုနှစ်၊ ဟိဂျ်ရီ (၇၈၂) ခုနှစ်တွင် ဘုရင်သိုင်မူးလန့်သည် အီရန်၊ ခိုရာစာန်နှင့် အဇာဘိုင်ဂျန်ဒေသများကို တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ ခရစ်နှစ် (၁၃၈၉) ခုနှစ်တွင် အိန္ဒိယမြောက်ပိုင်းဒေသများကို တိုက်ခိုက်ဖျက်ဆီးခဲ့သည်။ ဒေလီမြို့ကို ဝန်းရံပိတ်ဆို့တိုက်ခိုက်ကာ ပြည်သူများစွာကို သတ်ဖြတ်ပြီး မြို့ကိုဖျက်ဆီးခဲ့သည်။ ခရစ်နှစ် (၁၃၉၃) ခုနှစ်တွင် အီရတ်ဒေသကို တိုက်ခိုက်သိမ်းပိုက်ပြီး ဘဂ္ဂဒတ်မြို့ကို ဖျက်ဆီးခဲ့သည်။ ခရစ်နှစ် (၁၃၉၅) ခုနှစ်တွင် ဘုရင်သိုင်မူးလန့်သည် အင်အားကြီးမားသော စစ်တပ်ကို ဦးဆောင်ကာ မော်စကိုမြို့ကို ချီတက်တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ မော်စကိုမြို့တွင် (၁၄) လခန့်နေထိုင်ကာ သယ်ဆောင်နိုင်သမျှပစ္စည်းအားလုံးကို သိမ်းပိုက်ယူဆောင်ပြီး ပြန်လည်ထွက်ခွာခဲ့သည်။ ခရစ်နှစ် (၁၄၀၁) ခုနှစ်တွင် ရှာမ်ဒေသကို ဝင်ရောက်တိုက်ခိုက်ပြီး အလက်ပိုနှင့် ဒမက်စကပ်မြို့ များကို မီးရှို့ဖျက်ဆီးခဲ့သည်။

ထို့နောက် ဘုရင်သိုင်မူးလန့်သည် အွစ်မာနီယာတို့အုပ်ချုပ်နေသော ဗဟိုအာရှဒေသကို တိုက်ခိုက်ခဲ့သည်။ အွစ်မာနီယာတို့ အုပ်ချုပ်

နေသော ဗဟိုအာရှဒေသရှိမြို့များကို ဖျက်ဆီးပြီး ဟိဂ္ဂျရီ (၈၀၄) ခုနှစ်၊ ခရစ်နှစ် (၁၄၀၂) ခုနှစ်တွင် အွစ်မာနီယာဘုရင်ဘာယဇီးဒ်ကို မွန်ဂိုတပ် များဖမ်းဆီးနိုင်ခဲ့သည်။ ထို့နောက်တရုတ်နိုင်ငံကို တိုက်ခိုက်ရန် ပြင်ဆင် နေချိန် ဟိဂ္ဂျရီ (၈၀၇) ခုနှစ်၊ ခရစ်နှစ် (၁၄၀၅) ခုနှစ်တွင် မွန်ဂို ဘုရင်သိုင်မူးလန့်ကွယ်လွန်သေဆုံးသွားခဲ့ပြီး မွန်ဂိုတို့၏ထိုးစစ်များ အဆုံးသတ်သွားခဲ့သည်။

# အပိုင်း (၉)

# အိန္ဒိယမဂိုလ်အင်ပါယာ

# (ဟိဂ်ျရီ ၉၃၂ - ၁၂၇၄) (ခရစ်နှစ် ၁၅၂၆ - ၁၈၅၈)

**(အုပ်ချုပ်ခဲ့သည့်အချိန်ကာလ - ၃၄၂ နှစ်)**

## မဂိုလ်မင်းဆက်စတင်ဖြစ်ပေါ်လာပုံ

အိန္ဒိယတိုက်နယ်ရှိ ဒေသအများစုကို နှစ်ပေါင်း (၃၀၀) ကျော် အုပ်ချုပ်ခဲ့သည့် တူရကီအဆက်အနွယ် မွန်ဂိုမျိုးနွယ်စုမင်းဆက် ဖြစ်သည်။ စတင်တည်ထောင်သူမှာ ဇွဟီရွဒ္ဒီးန်ဘာဘရ် ဖြစ်သည်။ ဇွဟီရွဒ္ဒီးန်ဘာဘရ်သည် နာမည်ကျော်မွန်ဂိုဘုရင် သိုင်မူးလန့်၏ အဆက်အနွယ်ဖြစ်သည်။ ခရစ်နှစ် (၁၄၉၇) ခုနှစ်တွင် စမရ်ကန့်မြို့စား ဖြစ်ခဲ့ပြီး ခရစ်နှစ် (၁၅၀၄) ခုနှစ်တွင် အာဖဂန်နစ္စတန်နိုင်ငံ ကဘူးလ် မြို့ကို သိမ်းယူနိုင်ခဲ့သည်။ ထို့နောက် ခရစ်နှစ် (၁၅၂၆) ခုနှစ်တွင် အိန္ဒိယနိုင်ငံကို အုပ်ချုပ်နေသော လူဒီမင်းဆက်ကို ဖြုတ်ချကာ မဂိုလ် မင်းဆက်ကို စတင်တည်ထောင်ခဲ့သည်။ အိန္ဒိယမြောက်ပိုင်းနှင့် အလယ် ပိုင်းဒေသများပါဝင်သည့် မဂိုလ်အင်ပါယာ စတင်ပေါ်ပေါက်လာခဲ့သည်။

## မဂိုလ်အင်ပါယာအင်အားအတောင့်တင်းဆုံးခေတ်ကာလ

ဘုရင်ဘာဘရ် စတင်အုပ်ချုပ်သည့် ခရစ်နှစ် (၁၅၂၆) ခုနှစ်မှစ၍ ဘုရင်အောင်ရန်ဇေးဗ် ကွယ်လွန်သည့် ခရစ်နှစ် (၁၇၀၇) ခုနှစ်အထိ နှစ်ပေါင်း (၁၈၁) နှစ်ကာလသည် မဂိုလ်အင်ပါယာ၏ အရှိန်အဝါနှင့်

အင်အားအတောင့်တင်းဆုံးကာလဖြစ်သည်။ ယဉ်ကျေးမှုအမျိုးမျိုး စုဝေးနေသော အိန္ဒိယတိုက်နယ်ကို ပေါင်းစည်းစေခဲ့သည်။ အိန္ဒိယ တိုက်နယ်သည် ဖွံ့ဖြိုးတိုးတက်သော နိုင်ငံတစ်ခုအဖြစ် ရပ်တည်နိုင်ခဲ့ သည်။ ခရစ်နှစ် (၁၆၀၅) ခုနှစ်တွင် နန်းတက်ခဲ့သည့် ဘုရင်အက္ကဗရ် ခေတ်သည် မဂိုလ်အင်ပါယာ အင်အားအတောင့်တင်းဆုံးကာလ ဖြစ်သည်။ သူသည် အိန္ဒိယတိုက်နယ်တစ်ခုလုံးကို အုပ်ချုပ်နိုင်ခဲ့ပြီး ဘင်္ဂလားနယ်အထိ အာဏာဖြန့်ကျက်နိုင်ခဲ့သည်။ ဘုရင်ဂျဟာန်ဂီးရ် (ခရစ်နှစ် ၁၆၀၅ - ၁၆၂၇) နှင့် ဘုရင်ရှားဟ်ဂျဟာန်း (ခရစ်နှစ် ၁၆၂၈ - ၁၆၅၈) တို့လက်ထက်တွင် နိုင်ငံပိုမိုတိုးတက်ခဲ့ပြီး ဥရောပနှင့် ကုန်သွယ်ရေးလုပ်ငန်းများ တွင်ကျယ်လာခဲ့သည်။

## မဂိုလ်မင်းဆက်ပျက်သုဉ်းခြင်း

(၁၇) ရာစုမှစ၍ အိန္ဒိယနိုင်ငံသည် အုပ်ချုပ်ရေးနှင့် စီးပွားရေး အကြပ်အတည်းများ ကြုံလာရသည်။ ကူးသန်းရောင်းဝယ်ရေးအတွက် အိန္ဒိယနိုင်ငံသို့ ရောက်ရှိလာသော အင်္ဂလိပ်တို့က တဖြည်းဖြည်း နိုင်ငံရေးအာဏာရယူရန် ကြိုးပမ်းလာခဲ့ကြသည်။ အင်္ဂလိပ်တို့သည် အိန္ဒိယဒေသခံအချင်းချင်းအကြားသွေးခွဲပြီး စည်းလုံးမှုပြိုကွဲစေခဲ့သည်။ များစွာသောပြည်နယ်များ မဂိုလ်အုပ်ချုပ်မှုအောက်မှ ခွဲထွက်သွားခဲ့ပြီး မဂိုလ်စစ်တပ်အင်အားလည်း တဖြည်းဖြည်းကျဆင်းလာခဲ့သည်။ ခရစ်နှစ် (၁၈၅၇) ခုနှစ်တွင် မဂိုလ်မင်းဆက်နောက်ဆုံးဘုရင် ဘဟာဒူးရ်ရှားဟ်ကို ဖြုတ်ချပြီး အင်္ဂလိပ်တို့က အိန္ဒိယနိုင်ငံကို သိမ်းပိုက်လိုက်ကြသည်။ မဂိုလ်မင်းဆက်တွင် ဘုရင် (၁၈) ဦးရှိခဲ့သည်။

## မဂိုလ်အင်ပါယာခေတ် လုပ်ဆောင်ချက်များ

အရဗီစကားလုံးများစွာနှင့် ဒေသခံဟင်ဒီစကားပြောဟန်ကို ရောယှက်ထားသည့် ဖာရစီစာပေကို အခြေခံထားသော အူရ်ဒူစာပေ တွင်ကျယ်ပြန့်နှံ့ခဲ့သည်။ အိန္ဒိယတိုက်နယ်တစ်ခုလုံးကို လွှမ်းခြုံ ဖြန့်ကျက်ထားသည့် လမ်းမကြီးများကို ဖောက်လုပ်နိုင်ခဲ့ပြီး တပြေးညီ ငွေကြေးစနစ်ကို တီထွင်အသုံးပြုနိုင်ခဲ့သောကြောင့် စီးပွားရေးဖွံ့ဖြိုး တိုးတက်ခဲ့သည်။ အိန္ဒိယလယ်ယာထွက်ကုန်များနှင့် လက်မှုပစ္စည်းများ သည် ကမ္ဘာ့ဈေးကွက်တွင် နေရာယူခဲ့သည်။ စည်ကားဖွံ့ဖြိုးသော မြို့ကြီးများ ပေါ်ပေါက်ခဲ့သည်။

မဂိုလ်ဘုရင် ရှားဟ်ဂျဟန်းလက်ထက်တွင် မဂိုလ်ဗိသုကာ ပညာရပ် အထွတ်အထိပ်ရောက်ခဲ့သည်။ ကမ္ဘာကျော်တာဂျ်မဟလ် အဆောက်အဦးကို တည်ဆောက်ခဲ့ပြီး ခံတပ်နီ၊ လာဟိုရ်ခံတပ်စသည့် နာမည်ကျော် မဂိုလ်ဗိသုကာလက်ရာများကို ဆောက်လုပ်ခဲ့သည်။ ယနေ့အချိန်အထိ မဂိုလ်ခေတ်ဗိသုကာလက်ရာများစွာကို အိန္ဒိယ တိုက်နယ်အနှံ့ တွေ့ရမည်ဖြစ်သည်။ မဂိုလ်ဘုရင်များလက်ထက်တွင် အိန္ဒိယတိုက်နယ်၌ အစ္စလာမ်သာသနာတိုးတက်ပြန့်ပွားခဲ့သည်။

# အပိုင်း (၁၀)

# အွစ်မာနီယာအင်ပါယာ (အော်တိုမန်အင်ပါယာ)

# (ဟိဂျ်ရီ ၆၉၈ - ၁၃၄၁) (ခရစ်နှစ်၁၂၉၉ - ၁၉၂၃)

**(အုပ်ချုပ်သည့်ကာလ - ၆၄၃ နှစ်)**

**အွစ်မာနီယာအင်ပါယာနိဒါန်း**

အွစ်မာနီယာတို့သည် တာကစ်စတန်ဒေသတွင် နေထိုင်ကြသော တူရကီနွယ်ဝင်များ ဖြစ်ကြသည်။ တာကစ်စတန်ဒေသကို မွန်ဂိုတို့ဖျက်စီးပြီးနောက် အွစ်မာနီယာတို့သည် ကော့ကေးဆပ်တောင်ပိုင်းရှိ အာမေးနီးယားလွင်ပြင်ဒေသများဆီသို့ ပြောင်းရွှေ့နေထိုင်ခဲ့ကြသည်။ အွစ်မာနီယာခေါင်းဆောင် အရ်သွဂ်ရွလ်သည် စလ်ဂျူကီဘုရင် အလာအွဒ္ဒီးန်ထံအမှုထမ်းပြီး စလ်ဂျူကီတို့၏ ရန်သူများကို ကူညီတိုက်ခိုက်ပေးခဲ့သောကြောင့် အလာအွဒ္ဒီးန်က ဘာဇင်တိုင်းအင်ပါယာနှင့် နယ်နိမိတ်ချင်းထိစပ်နေသည့် အစ်ကီနယ်ကို အွစ်မာနီယာတို့အတွက် အပိုင်စားပေးခဲ့သည်။ ဟိဂျ်ရီ (၆၈၇) ခုနှစ်၊ ခရစ်နှစ် (၁၂၈၈) ခုနှစ်တွင် ခေါင်းဆောင်အရ်သွဂ်ရွလ် ကွယ်လွန်ပြီးနောက် သားဖြစ်သူ အွစ်မာန်ခေါင်းဆောင်ဖြစ်လာခဲ့သည်။ ဤခေါင်းဆောင်အမည်ကို အစွဲပြုပြီး အွစ်မာနီယာအင်ပါယာဟု ခေါ်ကြခြင်းဖြစ်သည်။

ခေါင်းဆောင်အွစ်မာန်လက်ထက်တွင် ပင်လယ်သေအနီးရှိ ဘာဇင်တိုင်းအင်ပါယာပိုင်နယ်မြေအများအပြားကို သိမ်းယူနိုင်ခဲ့သည်။ ထို့နောက် ခေါင်းဆောင်အွစ်မာန်သည် စလ်ဂျူကီတို့၏ သြဇာခံ

အဖြစ်မနေတော့ဘဲ သီးသန့်ဘုရင်တစ်ဦးအဖြစ် ခွဲထွက်ရပ်တည်ခဲ့သည်။ ထိုအချိန်မှစ၍ အွစ်မာနီယာမင်းဆက် စတင်ပေါ်ပေါက်လာခဲ့သည်။ ဟိဂျ်ရီ (၇၂၆) ခုနှစ်၊ ခရစ်နှစ် (၁၃၂၆) ခုနှစ်တွင် ဘုရင်အွစ်မားန်ကွယ်လွန်ပြီး သားဖြစ်သူအူးရ်ခါးန် ဘုရင်ဖြစ်လာခဲ့သည်။

## နိုင်ငံအဖြစ်မှ အင်ပါယာအဖြစ်သို့

ဘုရင်အွစ်မားန်ကိုဆက်ခံသော သားဖြစ်သူအူးရ်ခါးန် လက်ထက်တွင် အွစ်မာနီယာတို့ ပိုမိုအင်အားတောင့်တင်းလာခဲ့သည်။ ဘရိုစာမြို့ကို မြို့တော်အဖြစ်သတ်မှတ်ခဲ့ပြီး စစ်တပ်ကို စနစ်တကျဖွဲ့စည်းခဲ့သည်။ ဘာဇင်တိုင်းအင်ပါယာပိုင် ဂါလီဘိုလီကျွန်းကို သိမ်းယူနိုင်ခဲ့သည်။ အုပ်ချုပ်ရေးကို အခြေခိုင်အောင် ဆောင်ရွက်နိုင်ခဲ့သည်။ အွစ်မာနီယာအင်ပါယာ၏ အကျယ်အဝန်းသည် အန်ကာရာမြို့မှ ဘော်လကန်ဒေသရှိ တရက်ယာဒေသအထိ ရောက်ရှိနေပြီဖြစ်သည်။ ဟိဂျ်ရီ (၇၆၀) ခုနှစ်၊ ခရစ်နှစ် (၁၃၅၉) ခုနှစ်တွင် ဘုရင်အူးရ်ခါးန် ကွယ်လွန်ပြီး သားဖြစ်သူ မိုရားဒ်အောင်ဝလ် ဘုရင်ဖြစ်လာခဲ့သည်။

ရဲရင့်ပြီး စစ်မှုရေးရာကျွမ်းကျင်သော ဘုရင်မိုရားဒ်လက်ထက်တွင် ဘော်လကန်ဒေသအနီးရှိ အီဒရင်မြို့ကိုသိမ်းယူပြီး မြို့တော်အဖြစ်သတ်မှတ်အခြေချခဲ့သည်။ ထို့နောက်ဘော်လကန်ဒေသရှိ ဆူဖီယာနှင့် စာလူနီမြို့တို့ကို ဆက်လက်သိမ်းယူနိုင်ခဲ့သည်။

## ဘော်လကန်ဒေသကို သိမ်းပိုက်ခြင်း

တဖြည်းဖြည်းအင်အားတောင့်တင်းပြီး နယ်မြေကျယ်ပြန့်လာသည့် အွစ်မာနီယာအင်ပါယာကို ဘော်လကန်ဒေသရှိ ဘုရင်များက

အမြစ်ဖြတ်နှိမ်နင်းရန်ရည်ရွယ်ပြီး ဘော်လကန်ဒေသရှိ စစ်အင်အား များကို ပေါင်းစည်းခဲ့ကြသည်။ ဟိဂျ်ရီ (၇၉၁) ခုနှစ်၊ ခရစ်နှစ် (၁၃၈၅) ခုနှစ်တွင် ကိုဆိုဗိုဒေသ၌ အွစ်မာနီယာစစ်တပ်နှင့် ဘော်လကန် စစ်တပ်များအကြား ပြင်းထန်သော စစ်ပွဲကြီးဖြစ်ပွားခဲ့သည်။ ထိုစစ်ပွဲ ကြီးတွင် ဘုရင်မိုရားဒ်ကျဆုံးခဲ့ပြီး သားဖြစ်သူ ဘာယဇီးဒ်က ဘုရင် အဖြစ်ဆက်ခံကာ တိုက်ပွဲကို အနိုင်ရအောင် တိုက်ခိုက်နိုင်ခဲ့သည်။ ထို့ကြောင့် ဘော်လကန်ဒေသသည် အွစ်မာနီယာအင်ပါယာ၏ အုပ်ချုပ် မှုအောက်သို့ ရောက်ရှိသွားခဲ့သည်။

## မွန်ဂိုထိုးစစ်ကြောင့် အွစ်မာနီယာတို့ကျရှုံးခြင်း

မွန်ဂိုဘုရင်သိုင်မူးလန်၏ ထိုးစစ်ဆင်တိုက်ခိုက်မှုများအောက် တွင် အွစ်မာနီယာအင်ပါယာလည်း ကျရှုံးခဲ့ရသည်။ ခရစ်နှစ် (၈၀၄) ခု နှစ်၊ ခရစ်နှစ် (၁၄၀၂) ခုနှစ်တွင် အန်ကာရာမြို့အနီး၌ မွန်ဂိုစစ်တပ်နှင့် အွစ်မာနီယာစစ်တပ် တိုက်ပွဲဖြစ်ပွားခဲ့ပြီး အွစ်မာနီယာစစ်တပ်ရှုံးနိမ့်ကာ ဘုရင်ဘာယဇီးဒ်အဖမ်းခံခဲ့ရသည်။ မွန်ဂိုတို့သည် အွစ်မာနီယာတို့ အုပ်ချုပ်နေသော မြို့များကို ဖျက်ဆီးပြီး ယူဆောင်နိုင်သမျှ ပစ္စည်းများ ကို သိမ်းပိုက်ယူဆောင်သွားခဲ့ကြသည်။

ထို့နောက် ဘာယဇီးဒ်၏ သားဖြစ်သူ မုဟမ္မဒ်အောင်ဝလ် ဘုရင်ဖြစ်လာခဲ့ပြီး အွစ်မာနီယာအင်ပါယာကို ပြန်လည်တည်ထောင်ခဲ့ သည်။ ဘုရင်မုဟမ္မဒ်အောင်ဝလ်ကွယ်လွန်ပြီးနောက် ဘုရင်ဖြစ်လာ သော သားဖြစ်သူ မိုရားဒ်စာနီလက်ထက်တွင် အွစ်မာနီယာတို့ ပြန်လည် အင်အားတောင့်တင်းလာခဲ့သည်။ အွစ်မာနီယာအင်ပါယာကို အမြစ် ဖြတ်တိုက်ခိုက်ရန် ရည်ရွယ်ခဲ့သည့် ဥရောပနှင့် ဘော်လကန်ပူးပေါင်း ထားသည့် မဟာမိတ်စစ်တပ်ကို ရင်ဆိုင်နှိမ်နင်းနိုင်ခဲ့သည်။

## ကွန်စတန်တီနိုပယ်ကို အောင်နိုင်ခြင်း

ဟိဂ်ျရီ (၈၅၄) ခုနှစ်၊ ခရစ်နှစ် (၁၄၅၁) ခုနှစ်တွင် ဘုရင်မိုရားဒ် စာနီ ကွယ်လွန်ပြီးနောက် သားဖြစ်သူ မုဟမ္မဒ်စာနီ ဘုရင်ဖြစ်လာခဲ့ သည်။ ဘုရင်မုဟမ္မဒ်စာနီလက်ထက်တွင် အွစ်မာနီယာအင်ပါယာ၏ စစ်အင်အားသည် စနစ်တကျနှင့် အတောင့်တင်းဆုံးဖြစ်လာခဲ့သည်။ အာရှနှင့် ဥရောပရှိ အွစ်မာနီယာအင်ပါယာပိုင်နယ်မြေများကို ဘာဇင်တိုင်းအင်ပါယာပိုင် ကွန်စတန်တီနိုပယ်မြို့က ပိုင်းခြားထား သည်။ ကွန်စတန်တီနိုပယ်မြို့ကို အလွန်ခိုင်မာသောတံတိုင်း အဆင့်ဆင့်ဖြင့် ကာရံထားပြီး ဘက်သုံးဘက်တွင် ပင်လယ်ရေပြင်က အကာအကွယ်ပြုပေးထားသောကြောင့် သမိုင်းတစ်လျှောက် မည်သည့် စစ်တပ်မှ ထိုးဖောက်ဝင်ရောက်တိုက်ခိုက်နိုင်ခဲ့ခြင်းမရှိပေ။

ဘုရင်မုဟမ္မဒ်စာနီသည် ကွန်စတန်တီနိုပယ်မြို့ကို သိမ်းယူပြီး အွစ်မာနီယာအင်ပါယာ၏ မြို့တော်အဖြစ် သတ်မှတ်အခြေစိုက်ရန် ရည်ရွယ်ခဲ့သည်။ ဘာဇင်တိုင်းဘုရင် ကွန်စတန်တင်း (၁၁) က ရောမရှိပုပ်ရဟန်းမင်းကြီးကို စစ်ကူတောင်းခဲ့သည်။ အွစ်မာနီယာ စစ်တပ်သည် မြို့တံတိုင်းများကို အမြောက်ကြီးများနှင့် မရပ်မနား ဆက်တိုက်ပစ်ခတ်ခဲ့သည်။ ဘာဇင်တိုင်းအင်ပါယာကို ကူညီရန် ပုပ်ရဟန်းမင်းကြီးပေးပို့လိုက်သော စစ်သင်္ဘောအချို့နှင့် စစ်တပ်အချို့ ရောက်လာခဲ့သော်လည်း ကွန်စတန်တီနိုပယ်သည် ဆက်လက် တောင့်ခံနိုင်ခြင်းမရှိတော့ပါ။ ခရစ်နှစ် (၁၄၅၃) ခုနှစ်တွင် ဘုရင်မုဟမ္မဒ် စာနီဦးဆောင်သော အွစ်မာနီယာစစ်တပ်များ ကွန်စတန်နိုပယ်မြို့ကို အောင်နိုင်ခဲ့သည်။

**အရဗ်နယ်မြေများကို သိမ်းယူခြင်း**

ဤအချိန်တွင် အီရန်နှင့် အီရတ်ဒေသများ၌ ဆွဖဝီမင်းဆက် အုပ်ချုပ်နေပြီး အီဂျစ်၊ ရှာမ်နှင့် ဟေဂျာ့ဇ်ဒေသများတွင် မမာလိက် မင်းဆက်အုပ်ချုပ်နေသည်။ အွစ်မာနီယာဘုရင်စလီးမ်အောင်ဝလ်ကို ဆန့်ကျင်ပုန်ကန်သူများအား ဆွဖဝီဘုရင် အိစ်မာအီးလ်ရှားဟ်က ခိုလှုံ ခွင့်ပေးခြင်းကြောင့် ဘုရင်စလီးမ်အောင်ဝလ် ဦးဆောင်သော အွစ်မာနီ ယာစစ်တပ်သည် အီရန်သို့ ချီတက်လာခဲ့သည်။ သိဗ်ရေးဇ်မြို့အနီးတွင် အွစ်မာနီယာစစ်တပ်နှင့် ဆွဖဝီစစ်တပ်တို့ တိုက်ပွဲဖြစ်ပွားပြီး အွစ်မာနီ ယာစစ်တပ် အနိုင်ရခဲ့သည်။ ထို့ကြောင့် ဆွဖဝီမင်းဆက်အခြေစိုက်ရာ သိဗ်ရေးဇ်မြို့နှင့် ဆွဖဝီတို့အုပ်ချုပ်သောနယ်မြေများသည် အွစ်မာနီယာ အင်ပါယာလက်အောက်သို့ ရောက်ရှိသွားခဲ့သည်။

အီဂျစ်အခြေစိုက်မမာလိက်ဘုရင်များနှင့် အွစ်မာနီယာတို့ အကြား ကောင်းမွန်သောဆက်ဆံရေးရှိခဲ့သည်။ အွစ်မာနီယာတို့ ကွန်စတန်တီနိုပယ်ကို အောင်နိုင်သောအခါ မမာလိက်တို့က ဂုဏ်ပြုပွဲ များ ကျင်းပပေးခဲ့ကြသည်။ သို့သော် ထိုချစ်ကြည်မှုသည် ကြာရှည်မခံခဲ့ ပါ။ အွစ်မာနီယာဘုရင် ဘာယဒီးဒ်စာနီကို ပုန်ကန်သော ဂျမ် အမည်ရ ပုဂ္ဂိုလ်အား မမာလိက်တို့က ခိုလှုံခွင့်ပေးပြီး ထောက်ပံ့ခဲ့သောကြောင့် အွစ်မာနီယာဘုရင်က မမာလိက်တို့ကို စစ်ကြေညာခဲ့သည်။ အလက်ပိုမြို့အနီးတွင် အွစ်မာနီယာစစ်တပ်နှင့် မမာလိက်စစ်တပ်တို့ တိုက်ပွဲဖြစ်ပွားခဲ့သည်။ အွစ်မာနီယာဘုရင် စလီးမ်အောင်ဝလ် လက်ထက်တွင် မမာလိက်တို့နှင့် ဆက်ဆံရေးပိုမိုတင်းမာလာခဲ့သည်။ အွစ်မာနီယာတို့၏ရန်သူ ဆွဖဝီဘုရင်ကို မမာလိက်တို့က အကူအညီ ပေးသည်ဟု စွပ်စွဲပြီး ရှာမ်ဒေသရှိ မမာလိက်တို့ပိုင်ဆိုင်သော နယ်မြေအချို့ကို အွစ်မာနီယာတို့က သိမ်းယူခဲ့သည်။ မမာလိက်ဘုရင် ဂေါင်ရီက အွစ်မာနီယာတို့နှင့် ပြန်လည်ညှိနှိုင်းရန် ကြိုးစားခဲ့သော်

လည်း မအောင်မြင်ခဲ့ပါ။ ဟိဂျ်ရီ (၉၂၂) ခုနှစ်၊ ခရစ်နှစ် (၁၅၁၆) ခုနှစ်တွင် ဆီးရီးယားဒေသရှိ မရ်ဂျေဒါဘိက် အမည်ရနေရာတွင် အွစ်မာနီယာစစ်တပ်နှင့် မမာလိက်စစ်တပ်တို့အကြား ပြင်းထန်သောတိုက်ပွဲကြီး ဖြစ်ပွားခဲ့သည်။ ထိုစစ်ပွဲတွင် မမာလိက်ဘုရင် ဂေါင်ရီကျဆုံးပြီး အွစ်မာနီယာတို့ အနိုင်ရခဲ့သည်။ ဤစစ်ပွဲတွင် အမြောက်ကြီးများနှင့် ခေတ်မီလက်နက်များတပ်ဆင်ထားသော အွစ်မာနီယာစစ်တပ်အသာစီးရပြီး အနိုင်ရခဲ့ခြင်းဖြစ်သည်။ ဤစစ်ပွဲတွင် အနိုင်ရရှိပြီးနောက် ရှာမ်ဒေသသည် အွစ်မာနီယာအင်ပါယာလက်အောက်သို့ ရောက်ရှိသွားခဲ့သည်။

ထို့နောက် အွစ်မာနီယာစစ်တပ်သည် မမာလိက်မင်းဆက်အခြေစိုက်ရာ အီဂျစ်ဒေသသို့ ဆက်လက်ချီတက်လာခဲ့သည်။ ကိုင်ရိုမြို့အနီးတွင် မမာလိက်လက်ကျန်စစ်တပ်နှင့် အွစ်မာနီယာစစ်တပ်တို့ တိုက်ပွဲဖြစ်ပွားပြီး အွစ်မာနီယာစစ်တပ် ဆက်လက်အနိုင်ရခဲ့သည်။ ထို့ကြောင့် မမာလိက်မင်းဆက် ပျက်သုဉ်းပြီး အီဂျစ်ဒေသလည်း အွစ်မာနီယာအင်ပါယာ၏ လက်အောက်ခံဖြစ်လာခဲ့သည်။

မမာလိက်တို့၏အုပ်ချုပ်မှုအောက်တွင်ရှိခဲ့သော ဟေဂျားဇ်နယ်သည်လည်း အွစ်မာနီယာတို့၏ လက်အောက်သို့ ရောက်ရှိသွားခဲ့သည်။ ဟိဂျ်ရီ (၉၂၅) ခုနှစ်၊ ခရစ်နှစ် (၁၅၁၉) ခုနှစ်တွင် အလ်ဂျီးရီးယားဒေသကို သိမ်းယူခဲ့ပြီး ဟိဂျ်ရီ (၉၄၀) ခုနှစ်၊ ခရစ်နှစ် (၁၅၃၄) ခုနှစ်တွင် အီရတ်နိုင်ငံကို ဆွဖဝီများထံမှ သိမ်းယူနိုင်ခဲ့သည်။ ဟိဂျ်ရီ (၉၅၇) ခုနှစ်၊ ခရစ်နှစ် (၁၅၅၁) ခုနှစ်တွင် ယီမင်နှင့် လစ်ဗျားဒေသကို အွစ်မာနီယာတို့ ဆက်လက်သိမ်းယူနိုင်ခဲ့သည်။ ဟိဂျ်ရီ (၉၈၁) ခုနှစ်၊ ခရစ်နှစ် (၁၅၇၄) ခုနှစ်တွင် တူနီးရှားနိုင်ငံကို သိမ်းယူနိုင်ခဲ့သည်။

ထို့ကြောင့် အာရဗ်နယ်မြေအားလုံးသည် အွစ်မာနီယာအင်ပါယာ၏ ပြည်နယ်များဖြစ်လာခဲ့သည်။ အွစ်မာနီယာအင်ပါယာသည်

အလွန်ကျယ်ဝန်းပြီး အင်အားတောင့်တင်းသော အင်ပါယာကြီး တစ်ခုဖြစ်လာခဲ့ပြီး ဘော်လကန်ဒေသ၊ ကော့ကေးဆပ်ဒေသ၊ ခရိုင်းမီးယားဒေသနှင့် အာဖရိကမြောက်ပိုင်းဒေသများအထိ အာဏာ ဖြန့်ကျက်နိုင်ခဲ့သည်။

## အွစ်မာနီယာအင်ပါယာအင်အားအတောင့်တင်းဆုံးအချိန်ကာလ

ဟိဂ်ျရီ (၁၅၂၀) ခုနှစ်၊ ခရစ်နှစ် (၉၂၆) ခုနှစ်တွင် ဘုရင်စလီးမ် ကွယ်လွန်ပြီးနောက် သားဖြစ်သူ ဆိုလိုင်မားန်ကာနူနီ ဘုရင်ဖြစ်လာခဲ့ သည်။ ဘုရင်ဆိုလိုင်မားန်လက်ထက်တွင် ဟန်ဂေရီနိုင်ငံတောင်ပိုင်းနှင့် အလယ်ပိုင်းကို သိမ်းယူနိုင်ခဲ့သည်။ အွစ်မာနီယာရေတပ်သည် ပိုမို အင်အားတောင့်တင်းလာပြီး တူနီးရှားဒေသနှင့် လစ်ဗျားနိုင်ငံ ထရီပိုလီ မြို့တို့ကို သိမ်းယူနိုင်ခဲ့သည်။ ဘုရင်ဆိုလိုင်မားန်လက်ထက်တွင် အွစ်မာနီယာအင်ပါယာသည် အင်အားအတောင့်တင်းဆုံးဖြစ်ခဲ့သည်။

## အွစ်မာနီယာအင်ပါယာ အင်အားချိနဲ့လာခြင်း

တူရကီအွစ်မာနီယာတို့သည် အနောက်ဘက်ဗီယင်နာမှ အရှေ့ဘက်ကော့ကေးဆပ်ဒေသအထိ၊ ဘော့စဖိုးရပ်ရေလက်ကြားမှ ပင်လယ်နီကမ်းစပ်အထိ၊ ရှာမ်ဒေသမှအီဂျစ်နှင့် အလ်ဂျီးရီးယားဒေသ အထိ ကျယ်ဝန်းသောအင်ပါယာကြီးကို အုပ်ချုပ်ခဲ့ကြသည်။ အွစ်မာနီ ယာအင်ပါယာသည် ရာစုနှစ် (၅) ခုကျော် တည်တံ့ခဲ့သည်။ ခရစ်နှစ် (၁၆) ရာစုသည် အွစ်မာနီယာအင်ပါယာအင်အားအတောင့်တင်းဆုံး ကာလဖြစ်ပြီး (၁၇) ရာစုအဆုံးပိုင်းအထိ အင်ပါယာ၏အင်အားကို ထိန်းသိမ်းထားနိုင်ခဲ့ကြသည်။ ထို့နောက် တဖြည်းဖြည်းအင်အားချိနဲ့

လာခဲ့သည်။ ထိုသို့အင်အားချိနဲ့လာရခြင်းမှာ အောက်ပါအကြောင်းခံများကြောင့်ဖြစ်သည်။

**(၁)** နာမည်ကျော် အွစ်မာနီယာဘုရင်ဆိုလိုင်မားန်ကာနူနီ ကွယ်လွန်ပြီးနောက်ပိုင်း ဘုရင်ဖြစ်လာသူများသည် စည်းစိမ်ယစ်မူးပြီး ခေါင်းဆောင်မှုအရည်အသွေးမပြည့်ဝခြင်း။

**(၂)** အုပ်ချုပ်ရေးကဏ္ဍတွင် အရာရှိများက ဝင်ရောက်စွက်ဖက်လာခြင်း။

**(၃)** လာဘ်ပေးလာဘ်ယူမှုများပြားပြီး အုပ်ချုပ်ရေးယန္တရား ယိုယွင်းလာခြင်း။

**(၄)** စစ်တပ်အင်အားလျော့နည်းလာခြင်းကြောင့် အင်ပါယာပိုင်နယ်မြေများကို လက်လွှတ်ဆုံးရှုံးလာရခြင်း။

အချို့ဘုရင်များသည် အင်ပါယာ၏ စီးပွားရေး၊ စစ်ရေး၊ အုပ်ချုပ်ရေး စသည့်ကဏ္ဍအသီးသီးတွင် ယိုယွင်းကျဆင်းမှုများကို ရိပ်စားမိပြီး ပြုပြင်ပြောင်းလဲရေးများ လုပ်ဆောင်ရန် ကြိုးစားခဲ့ကြသည်။ သို့သော် အုပ်ချုပ်ရေးပိုင်းဆိုင်ရာအရာရှိကြီးများနှင့် စစ်တပ်ခေါင်းဆောင်အချို့၏ အပြင်းအထန် ဆန့်ကျင်မှုများကြောင့် လုပ်ဆောင်နိုင်ခဲ့ခြင်းမရှိဘဲ နည်းလမ်းအဟောင်းများအတိုင်းသာ ဆက်လက်လျှောက်လှမ်းခဲ့ရသည်။ ထို့ကြောင့်အွစ်မာနီယာအင်ပါယာသည် အရှိန်အဟုန်နှင့် တိုးတက်ပြောင်းလဲလာသော ခေတ်မီနည်းပညာများနှင့် ပိုမိုဝေးကွာရင်း ခေတ်နောက်ကျသော အင်ပါယာတစ်ခု ဖြစ်သွားခဲ့သည်။

အွစ်မာနီယာအင်ပါယာ၏ လက်အောက်ခံအရပ်ဗ်နိုင်ငံများသည်လည်း တိုးတက်ပြောင်းလဲနေသော ခေတ်ကာလနှင့် မျက်ခြေပြတ်ပြီး ခေတ်နောက်ကျသောဒေသများ ဖြစ်သွားခဲ့သည်။ အွစ်မာနီယာအင်ပါယာအင်အားအချိနဲ့ဆုံးဖြစ်သည့် (၁၈) ရာစုနှောင်းပိုင်းကာလများတွင် ဥရောပကိုလိုနီနိုင်ငံကြီးများ၏ ပြည်တွင်းရေး

ဝင်ရောက်စွက်ဖက်မှုများနှင့် အရဗ်နိုင်ငံတို့၏ ခွဲထွက်ရေးလှုပ်ရှားမှုများကို ကြုံခဲ့ရသည်။ အီဂျစ်၊ ပါလက်စတိုင်း၊ လက်ဘနွန်၊ ယီမင်၊ မော်ရိုကိုတို့တွင် ခွဲထွက်ရေးလှုပ်ရှားမှုများ အရှိန်အဟုန်နှင့် ပေါ်ပေါက်လာခဲ့သည်။

## ပြုပြင်ပြောင်းလဲရေးသမားများ

ယိုယွင်းပျက်စီးနေသောအခြေအနေများကို ပြုပြင်ပြောင်းလဲရန် ဦးဆောင်ကြိုးစားခဲ့ကြသူများတွင် အထင်ရှားဆုံးပုဂ္ဂိုလ်မှာ ရှိုင်းခ်မုဟမ္မဒ် ဗင်န်အဗ္ဗဒုလ်ဝဟားဗ်ဖြစ်သည်။ အင်ပါယာ၏ ယိုယွင်းပျက်စီးနေသော အခြေအနေအရပ်ရပ်ကို ပြုပြင်ထိန်းသိမ်းပြီး ခိုင်မာစနစ်ကျသော အုပ်ချုပ်ရေးစနစ်ကိုကျင့်သုံးရန် ဟိဂျ်ရီ (၁၂၉၂) ခုနှစ်၊ ခရစ်နှစ် (၁၈၇၆) ခုနှစ်တွင် ဘုရင်ဖြစ်လာသည့် အဗ္ဗဒုလ်ဟမီးဒ်စာနီကို တောင်းဆိုခဲ့ကြသော နာမည်ကျော်ပြုပြင်ရေးသမားများမှာ ရှိုင်းခ် မဒ်ဟဒ်ဘာရှား၊ ရှိုင်းခ်ဂျမာလွဒ္ဒီးန်အဖ်ဂါနီ၊ ရှိုင်းခ်မုဟမ္မဒ်အဗ်ဒိုဟူနှင့် ရှိုင်းခ်အဗ္ဗဒွရ်ရဟ်မားန်ကဝါကေဘီတို့ဖြစ်သည်။ ထိုပုဂ္ဂိုလ်များသည် ပြုပြင်ပြောင်းလဲရေးအတွက် အစွမ်းကုန်ကြိုးစားခဲ့ကြသော်လည်း ကိုယ်ကျိုးအတွက် စနစ်ဟောင်းကို ခုံမင်ကြသော အရာရှိကြီးတို့၏ အပြင်းအထန်ဆန့်ကျင်မှုများနှင့် ရင်ဆိုင်ရပြီး နယ်နှင်ဒဏ်နှင့် ထောင်ဒဏ်များပေးခံခဲ့ရသည်။

## အွစ်မာနီယာအင်ပါယာပိုင်နယ်မြေများကို ဥရောပကိုလိုနီနိုင်ငံများက သိမ်းပိုက်ခြင်း

အထက်တွင် တင်ပြခဲ့သည့်အတိုင်း (၁၈) ရာစု အွစ်မာနီယာ အင်ပါယာ အင်အားယုတ်လျော့ကျဆင်းလာချိန်တွင် ဥရောပကိုလိုနီ

နိုင်ငံကြီးများက အွစ်မာနီယာအင်ပါယာပိုင်နယ်မြေများကို သိမ်းယူခဲ့ကြသည်။ အာရေဗျကျွန်းဆွယ်၊ အလ်ဂျီးရီးယား၊ တူနီးရှား၊ မော်ရိုကို၊ ဆိုမားလီးယား၊ အီဂျစ်၊ ဆူဒန်စသည့် အွစ်မာနီယာအင်ပါယာပိုင်နယ်မြေများကို အင်္ဂလန်၊ ပြင်သစ်၊ အီတလီစသည့် ဥရောပနိုင်ငံများက သိမ်းပိုက်ခဲ့ကြသည်။

## အွစ်မာနီယာအင်ပါယာပျက်သုဉ်းခြင်း

အွစ်မာနီယာအင်ပါယာ၏နောက်ဆုံးဘုရင် အဗ္ဗဒွလ်ဟမီးဒ်စာနီလက်ထက်တွင် တူရကီအမျိုးသားရေးဝါဒကို ကိုင်ဆွဲပြီး အွစ်မာနီယာမင်းဆက်၏အုပ်ချုပ်မှုကို တော်လှန်ရန်ရည်ရွယ်သော တူရကီစည်းလုံးညီညွတ်ရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးပါတီ ပေါ်ပေါက်လာခဲ့သည်။ ထိုပါတီသည် ဦးစွာပထမ အွစ်မာနီယာစစ်တပ်ကို ကြိုးကိုင်ချယ်လှယ်နိုင်ရန် ကြိုးစားခဲ့သည်။ အွစ်မာနီယာဘုရင်သည် ဤအဖွဲ့၏ကြိုးပမ်းမှုကို ဟန့်တားရန်ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ပါ။ ထိုပါတီသည် စစ်တပ်ကိုချုပ်ကိုင်နိုင်ခဲ့ပြီးနောက် ဘုရင်အဗ္ဗဒွလ်ဟမီးဒ်စာနီကိုဖြုတ်ချပြီး မုဟမ္မဒ်ခါမိစ်ကို နန်းတင်ခဲ့သည်။ ဘုရင်သည် ပါတီခေါင်းဆောင်များကြိုးဆွဲရာကရသည့် ရုပ်သေးရုပ်အဆင့်သာရှိတော့သည်။

တူရကီအမျိုးသားရေးဝါဒ ပိုမိုအားကောင်းလာပြီး အွစ်မာနီယာအင်ပါယာပိုင်နယ်မြေအများစုကိုလည်း လက်လွှတ်လိုက်ရပြီဖြစ်သည်။ ဟိဂျ်ရီ (၁၃၃၂) ခုနှစ်၊ ခရစ်နှစ် (၁၉၁၄) ခုနှစ်တွင် ပထမကမ္ဘာစစ်ကြီးဖြစ်ပွားချိန် အွစ်မာနီယာတို့သည် ဂျာမဏီနိုင်ငံဘက်မှ ဝင်ရောက်တိုက်ခိုက်ပေးခဲ့သည်။ ပထမကမ္ဘာစစ်တွင် အွစ်မာနီယာစစ်တပ် အကြီးအကျယ်ရှုံးနိမ့်ခဲ့သည်။ ဟိဂျ်ရီ (၁၃၃၅) ခုနှစ်၊ (၁၉၁၆)

ခုနှစ်တွင် လွတ်လပ်ရေးပေးမည်ဟု ကတိပေးခြင်းကြောင့် အရဗ်နိုင်ငံများလည်း မဟာမိတ်နိုင်ငံတို့နှင့် ပူးပေါင်းပြီး အွစ်မာနီယာအင်ပါယာကို ပုန်ကန်တော်လှန်ခဲ့သည်။ နောက်ဆုံးတွင်အွစ်မာနီယာတို့သည် မဟာမိတ်တို့နှင့် စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုခဲ့ရသည်။

ထို့နောက်မဟာမိတ်တပ်များ တူရကီနိုင်ငံသို့ ရောက်ရှိလာကြပြီး တူရကီနယ်မြေများကို ခွဲဝေသိမ်းပိုက်လိုက်ကြသည်။ ထိုအခါ မွဆ်သွဖားလ်ကမားလ်အသာသွတ်ဦးဆောင်သော တူရကီ တော်လှန်ရေး ပေါ်ပေါက်လာခဲ့သည်။ တူရကီတော်လှန်ရေးသမားများ၏ ကြိုးပမ်းမှုဖြင့် တူရကီနယ်မြေများကို ပြန်လည်သိမ်းယူနိုင်ခဲ့သည်။ ဟိဂျ်ရီ (၁၃၄၀) ခုနှစ်၊ ခရစ်နှစ် (၁၉၂၂) ခုနှစ်တွင် ဘုရင်မုဟမ္မဒ် စာဒိစ်က ထီးနန်းစွန့်ခွာပြီး နိုင်ငံရေးလောကမှ အနားယူသွားခဲ့သည်။ ထိုနောက် အဗ္ဗဒွလ်မဂျီးဒ်စာနီ ဘုရင်ဖြစ်လာခဲ့သည်။ သို့သော် အမည်ခံ ဘုရင်သာဖြစ်ပြီး အာဏာရှိသူမှာ မွဆ်သွဖားလ်ကမားလ်ဖြစ်သည်။ ဟိဂျ်ရီ (၁၃၄၂) ခုနှစ်၊ ခရစ်နှစ် (၁၉၂၄) ခုနှစ်တွင် မွဆ်သွဖားလ် ကမားလ်၏ဦးဆောင်မှုဖြင့် အွစ်မာနီယာခေလာဖသ်ကို တရားဝင် ဖျက်သိမ်းပြီး ဘုရင်အဗ္ဗဒွလ်မဂျီးဒ်စာနီနှင့် အွစ်မာနီယာမိသားစုဝင်များကို နယ်နှင်ဒဏ်ပေးခဲ့သည်။ ထို့ကြောင့် နှစ်ပေါင်း (၆၀၀) ကျော် တည်တံ့ခဲ့သော အွစ်မာနီယာမင်းဆက် ပျက်သုဉ်းသွားခဲ့သည်။

## အွစ်မာနီယာအင်ပါယာခေတ် လုပ်ဆောင်ချက်များ

အွစ်မာနီယာတို့သည် (၁၇) ရာစုအထိ အကောင်းဆုံး ဘဏ္ဍာရေးစနစ်ကို တည်ဆောက်ထားနိုင်ခဲ့ကြသည်။ ဘဏ္ဍာရေး ဝန်ကြီးဌာနတည်ထောင်ပြီး ဘဏ္ဍာရေးဝန်ကြီးခန့်အပ်ကာ အင်ပါယာ၏ စီးပွားရေးကို ထိန်းကျောင်းခဲ့သည်။ နာမည်ကျော်ပိုးလမ်းမကြီးကို

ပြန်လည်အသုံးပြုပြီး ကူးသန်းရောင်းဝယ်ရေးကို အရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးတိုးတက်စေခဲ့သည်။ (၁၄) ရာစုမှ (၁၇) ရာစုအထိ နိုင်ငံ တကာကုန်သွယ်ရေးသည် အွစ်မာနီယာတို့၏ထိန်းချုပ်မှုအောက်တွင် ရှိခဲ့သည်။ ကျယ်ပြောသောအင်ပါယာတစ်ဝှမ်းရှိ စိုက်ပျိုးမြေများကို လည်း စနစ်တကျစီမံခန့်ခွဲကာ လယ်ယာစိုက်ပျိုးရေးကဏ္ဍကို တိုးတက် စေခဲ့သည်။

အွစ်မာနီယာဘုရင်တို့သည် ပညာရေးကို အားပေးခဲ့ကြပြီး များစွာအထောက်အပံ့ပြုခဲ့ကြသည်။ ပညာရပ်အသီးသီးအတွက် များစွာ သော စာသင်ကျောင်းများကို အင်ပါယာတစ်ဝှမ်း ဆောက်လုပ်ခဲ့ကြ သည်။ (၁၄) ရာစုအဆုံးပိုင်းတွင် ဘာဆာမြို့၌ ပထမဆုံးဆေး တက္ကသိုလ်ကို ဖွင့်လှစ်နိုင်ခဲ့သည်။ (၁၅) ရာစုတွင် ဆေးပညာရှင်များ အသင်းကို တည်ထောင်နိုင်ခဲ့သည်။ ကွန်စတန်တီနိုပယ်ကို အောင်နိုင်ခဲ့သော ဘုရင်မုဟမ္မဒ်ဖာသေ့ဟ်လက်ထက်မှစ၍ ခေတ် အဆက်ဆက်တွင် ပညာရပ်ဆိုင်ရာကောလိပ်များ တည်ထောင်ဖွင့်လှစ် ခဲ့ကြသည်။ ဘုရင်အဗ္ဗဒွလ်ဟမီးဒ်စာနီလက်ထက်တွင် ပညာရေးစနစ် ပိုမိုတိုးတက်လာခဲ့ပြီး အလယ်တန်းနှင့် အထက်တန်းအဆင့် စာသင်ကျောင်းများ ဖွင့်လှစ်ခဲ့သည်။

ဆောက်လုပ်ရေးဗိသုကာကဏ္ဍကိုလည်း အွစ်မာနီယာတို့က အလေးပေးဆောင်ရွက်ခဲ့ကြသည်။ လမ်းမကြီးများ၊ တံတားများ၊ စာသင်ကျောင်းများ၊ ဗလီများ၊ ဘိုးဘွားရိပ်သာများ၊ ဆေးရုံများ၊ အများသုံးရေချိုးခန်းများ၊ စာကြည့်တိုက်များ၊ ပြတိုက်များ စသဖြင့် များစွာသော အဆောင်အဦးများကို အင်ပါယာတစ်ဝှမ်း ဆောက်လုပ်ခဲ့ ကြသည်။ အွစ်မာနီယာဗိသုကာဟန်မှာ ပါရှန်း၊ ဘာဇင်တိုင်း၊ အရဗ်ဗိသုကာဟန်များကို တူရကီပုံစံဖြင့် ရောယှက်ပေါင်းစပ်ထားသည့် ဗိသုကာလက်ရာဖြစ်သည်။ အွစ်မာနီယာခေတ်နှောင်းပိုင်းတွင် ဥရောပ

ဟန်ဗိသုကာလက်ရာများကိုလည်း ပေါင်းစပ်တီထွင်ခဲ့ကြသည်။ အချို့ ဗလီကြီးများသည် အွစ်မာနီယာဗိသုကာ၏ အထင်ရှားဆုံးပြယုဂ်များ ဖြစ်ကြသည်။ ဥပမာ အစ္စတန်ဘူလ်မြို့ရှိ စွလ်သွာန်မုဟမ္မဒ်ဖာသေ့ဟ် ဗလီ၊ စွလ်သွာန်ဆိုလိုင်မားန်ကာနူနီဗလီ၊ စွလ်သွာန်အဟ်မဒ်ဗလီ စသည့် ဗလီကြီးများဖြစ်သည်။

# အပိုင်း (၁၁)

# ဒုတိယကမ္ဘာစစ်နောက်ပိုင်း အစ္စလာမ့်ကမ္ဘာ

## အခန်း ၁။ အစ္စလာမ့်နိုင်ငံများလွတ်လပ်ရေးရရှိခြင်း

အွစ်မာနီယာအင်ပါယာအင်အားကျဆင်းလာသည့် (၁၈) ရာစုနှောင်းပိုင်းမှစ၍ အစ္စလာမ့်နိုင်ငံများသည် ဥရောပနိုင်ငံများ၏ ကျူးကျော်သိမ်းပိုက်ခြင်းကို ခံခဲ့ရသည်။ ထိုသို့သိမ်းပိုက်ခံရပြီးချိန်မှစ၍ မွတ်စ်လင်မ်လူထု၏ လွတ်လပ်ရေးတိုက်ပွဲများလည်း စတင်ခဲ့သည်။ အီဂျစ်နိုင်ငံသည် ဗြိတိသျှတို့၏ ကျူးကျော်သိမ်းပိုက်မှုကိုခံခဲ့ရပြီး အီဂျစ်ပြည်သူတို့၏ နည်းလမ်းအမျိုးမျိုးဖြင့် တော်လှန်မှုကြောင့် ခရစ်နှစ် (၁၉၂၂) ခုနှစ်တွင် လွတ်လပ်ရေးရခဲ့သည်။ အရှေ့အလယ်ပိုင်းဒေသများတွင်လည်း ဗြိတိသျှနှင့် ပြင်သစ်တို့၏ ကိုလိုနီပြုမှုကို တော်လှန်တိုက်ခိုက်ခဲ့ကြပြီး ခရစ်နှစ် (၁၉၅၅) ခုနှစ်တွင် အီရတ်နိုင်ငံ၊ မော်ရိုကိုနိုင်ငံ။ ခရစ်နှစ် (၁၉၄၆) ခုနှစ်တွင် ဆီးရီးယားနိုင်ငံ၊ လက်ဘနွန်နိုင်ငံနှင့် ဂျော်ဒန်နိုင်ငံ။ ခရစ်နှစ် (၁၉၅၆) ခုနှစ်တွင် ဆူဒန်နိုင်ငံ၊ တူနီးရှားနိုင်ငံ။ ခရစ်နှစ် (၁၉၆၂) ခုနှစ်တွင် အလ်ဂျီးရီးယားနိုင်ငံစသဖြင့် လွတ်လပ်ရေးရခဲ့ကြသည်။

## အခန်း ၂။ ပါလက်စတိုင်းအရေး

ကမ္ဘာ့ဒေသအသီးသီးရှိဂျူးလူမျိုးများကို စုစည်းပြီး အစ္စရေးနိုင်ငံတည်ထောင်လိုသည့် ဇီယွန်နစ်ဝါဒသည် (၁၉) ရာစုနှောင်းပိုင်းတွင် ဂျူးလူမျိုးတို့အတွင်း ပြန့်နှံ့အားကောင်းလာခဲ့သည်။ ခရစ်နှစ် (၁၈၉၇)

ခုနှစ်တွင် ဆွစ်ဇာလန်နိုင်ငံ၌ ဇီယွန်နစ်ဝါဒီများသည် ညီလာခံတစ်ခု ကျင်းပပြီး မိမိတို့၏ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ရန် အစီအစဉ်များ ချမှတ်ခဲ့ကြသည်။ ပါလက်စတိုင်းဒေသကို သိမ်းပိုက်ပြီး အစ္စရေးနိုင်ငံတည်ထောင်မည့် ဇီယွန်နစ်တို့၏ ရည်ရွယ်ချက်ကို ဗြိတိန်၊ အမေရိကန်နှင့် ပြင်သစ်တို့က အားပေးထောက်ခံခဲ့ကြသည်။ ထိုအချိန်တွင် ပါလက်စတိုင်းဒေသသည် အွစ်မာနီယာအင်ပါယာ၏ လက်အောက်ခံပြည်နယ်တစ်ခုဖြစ်သည်။ ထို့ကြောင့် ဇီယွန်နစ်များသည် ဂျူးလူမျိုးများ ပါလက်စတိုင်းဒေသသို့ ပြောင်းရွှေ့အခြေချနေထိုင်ခွင့်ရရှိရေးအတွက် အွစ်မာနီယာဘုရင်ထံ နည်းလမ်းမျိုးစုံသုံး၍ ခွင့်ပန်ခဲ့ကြသည်။ သို့သော် အွစ်မာနီယာဘုရင်က လက်မခံဘဲ ဂျူးလူမျိုးများ ပါလက်စတိုင်းဒေသသို့ ပြောင်းရွှေ့နေထိုင်ခြင်းကို တားမြစ်ပိတ်ပင်သည့်ဥပဒေတစ်ခုကို ထုတ်ပြန်ခဲ့သည်။

အွစ်မာနီယာအင်ပါယာပျက်သုဉ်းပြီးနောက် ဇီယွန်နစ်များသည် မဟာမိတ်များထံချဉ်းကပ်ပြီး မိမိတို့၏ရည်ရွယ်ချက်ကို အကောင်အထည်ဖော်နိုင်ရန် ကြိုးပမ်းခဲ့ကြသည်။ ထို့နောက် ဂျူးလူမျိုးများကို ပါလက်စတိုင်းဒေသတွင် အခြေချနေထိုင်ခွင့်ပြုသည့် ဗြိတိန်နိုင်ငံခြားရေးဝန်ကြီး မစ္စတာဘာလ်ဖိုး၏ ဘာလ်ဖိုးကြေညာစာတမ်း ပေါ်ထွက်လာခဲ့သည်။ ဗြိတိန်၏အစောင့်ရှောက်ခံနယ်မြေဖြစ်သည့် ပါလက်စတိုင်းဒေသသို့ ဂျူးလူမျိုးများ သိန်းနှင့်ချီ၍ အလုံးအရင်းဝင်ရောက်လာခဲ့ကြသည်။ ဂျူးလူမျိုးများ လွယ်ကူစွာ ပြောင်းရွှေ့အခြေချနေထိုင်နိုင်ရန် အာဏာပိုင်ဖြစ်သည့် ဗြိတိန်တို့ကလည်း အစွမ်းကုန်ကူညီဆောင်ရွက်ပေးကြသည်။ ဂျူးဘာသာစကားဖြစ်သည့် အိဗ်ရာနီဘာသာစကားကို ပါလက်စတိုင်းဒေသ၏ ရုံးသုံးဘာသာစကားအဖြစ် သတ်မှတ်ပေးခဲ့သည်။

ပါလက်စတိုင်းအရဗ်တို့သည် တဖြည်းဖြည်းတိုးပွားလာသော ဂျူးပြောင်းရွှေ့အခြေချနေထိုင်သူများ၏အန္တရာယ်ကို ရိပ်စားသိရှိမိခဲ့ပြီး ဗြိတိန်တို့ကို စတင်တော်လှန်တိုက်ခိုက်ခဲ့ကြသည်။ ခရစ်နှစ် (၁၉၃၆) ခုနှစ်တွင် အပြင်းထန်ဆုံးအရဗ်တော်လှန်ရေး ပေါ်ပေါက်ခဲ့ပြီး ထိုတော်လှန်ရေးကို ဗြိတိန်တို့ မနှိမ်နင်းနိုင်ခဲ့ပါ။ ထို့ကြောင့်ဗြိတိန်တို့သည် ဘုတ်အဖွဲ့တစ်ဖွဲ့ဖွဲ့စည်းပြီး အရဗ်တို့နှင့် ဆွေးနွေးညှိနှိုင်းရန် ကြိုးစားခဲ့သည်။ ထိုဘုတ်အဖွဲ့က ပါလက်စတိုင်းမြေကို အရဗ်ပိုင်နယ်မြေ၊ ဂျူးပိုင်နယ်မြေနှင့် နိုင်ငံတကာထိန်းသိမ်းစောင့်ရှောက်ခံနယ်မြေဟူ၍ သုံးပိုင်းခွဲရန် အဆိုပြုခဲ့သည်။ ထိုအဆိုပြုချက်ကို အရဗ်တို့ကလက်မခံဘဲ ဆက်လက်တော်လှန်ခဲ့သည်။ ဗြိတိန်တို့သည် ဤတော်လှန်ရေးကိုလည်း မနှိမ်နင်းနိုင်ခဲ့ဘဲ အရဗ်ခေါင်းဆောင်များနှင့် ညှိနှိုင်းရန်အတွက် ခရစ်နှစ် (၁၉၃၉) ခုနှစ်တွင် လန်ဒန်မြို့၌ တွေ့ဆုံဆွေးနွေးပွဲတစ်ရပ် ကျင်းပခဲ့သည်။ ထိုဆွေးနွေးပွဲ၏ရလဒ်ကိုလည်း အရဗ်တို့က ပယ်ချခဲ့သည်။

ခရစ်နှစ် (၁၉၄၇) ခုနှစ်တွင် ကုလသမဂ္ဂညီလာခံ၌ ပါလက်စတိုင်းအရေးဆွေးနွေးကြပြီး ယခင်ဗြိတိန်တို့သတ်မှတ်ခဲ့သည့်အတိုင်း ပါလက်စတိုင်းမြေကို သုံးပိုင်းခွဲရန် ဆုံးဖြတ်ခဲ့သည်။ ထိုဆုံးဖြတ်ချက်ကို အရဗ်တို့ကလက်မခံဘဲ ဆက်လက်တော်လှန်ခဲ့ကြသည်။ အရဗ်တို့နှင့် ဂျူးများအကြား ပြင်းထန်သော စစ်ပွဲများဖြစ်ပွားခဲ့သည်။ ဂျူးတို့သည် ပါလက်စတိုင်းမြို့ရွာများကို အကြမ်းဖက်ဝင်ရောက်တိုက်ခိုက်ကာ ပါလက်စတိုင်းများကို သတ်ဖြတ်ခြင်း၊ နှင်ထုတ်ခြင်းများပြုခဲ့ကြသည်။ ပါလက်စတိုင်း (၇) သိန်းကျော် နေရပ်စွန့်ခွာထွက်ပြေးခဲ့ရသည်။

ခရစ်နှစ် (၁၉၄၈) ခုနှစ် မေလ (၁၅) ရက်နေ့တွင် ပါလက်စတိုင်းဒေသမှ ဗြိတိန်တို့ဆုတ်ခွာခဲ့ပြီး ထိုနေ့၌ပင် ဂျူးတို့က အစ္စရေးနိုင်ငံတည်ထောင်ကြောင်း ကြေညာခဲ့သည်။ ထိုအခါအရဗ်စစ်တပ်များ

ချီတက်တိုက်ခိုက်ခဲ့ရာ အစ္စရေးမြို့တော် တလ်အဗစ်မြို့အနီးအထိ ရောက်ရှိလာခဲ့သည်။ ထိုအခါ ကုလသမဂ္ဂက နှစ်ဖက်စစ်ပြေငြိမ်းရန် ဝင်ရောက်ဖြန်ဖြေပေးခဲ့သည်။ အမေရိကန်နှင့် ဗြိတိန်တို့ကလည်း စစ်ပွဲရပ်စဲရန် အရပ်အစိုးရများကို အကြပ်ကိုင်ခဲ့ကြသည်။ ထို့ကြောင့် စစ်ပြေငြိမ်းခဲ့ရပြီး အရဗ်တပ်များ အပစ်အခတ်ရပ်စဲခဲ့သည်။ သို့သော် အစ္စရေးစစ်တပ်က စစ်ပြေငြိမ်းရေးကို ချိုးဖောက်ပြီး စစ်မျက်နှာပြန်ဖွင့်ခဲ့သည်။ ဥရောပနိုင်ငံကြီးအချို့၏ စစ်ရေးအကူအညီပေးမှုနှင့်အတူ အစ္စရေးစစ်တပ်ပြန်လည်အင်အားတောင့်တင်းလာပြီး အသာစီးရခဲ့သည်။ အရဗ်စစ်တပ်များအကြား စည်းလုံးမှုပြိုကွဲခဲ့ပြီး အစ္စရေးစစ်တပ်ကို ဆက်တိုက်ရှုံးနိမ့်ခဲ့သည်။ ဤစစ်ပွဲတွင် အစ္စရေးစစ်တပ် အနိုင်ရခဲ့ပြီး ပါလက်စတိုင်းဒေသ၏ (၇၈) ရာခိုင်နှုန်းကို သိမ်းပိုက်ခဲ့သည်။ အနောက်ဘက်ကမ်းခြေနှင့် ဂါဇာကမ်းမြောင်ဒေသသာ အရဗ်တို့လက်ဝယ် ကျန်ရှိတော့သည်။

ခရစ်နှစ် (၁၉၆၇) ခုနှစ်တွင် ထပ်မံဖြစ်ပွားခဲ့သော အစ္စရေး - အရဗ်စစ်ပွဲတွင် အစ္စရေးတို့က ထိုကျန်ရှိနေသော အနောက်ဘက်ကမ်းခြေနှင့် ဂါဇာကမ်းမြောင်ဒေသတို့ကို ထပ်မံသိမ်းပိုက်ခဲ့ကြသည်။ ထိုအချိန်မှစ၍ အစ္စရေးတို့က ထိုဒေသနှစ်ခုကို စစ်အုပ်ချုပ်ရေးဖြင့် အုပ်ချုပ်ခဲ့သည်။ ခရစ်နှစ် (၂၀၀၅) ခုနှစ်တွင် ဂါဇာဒေသမှ အစ္စရေးစစ်တပ်များဆုတ်ခွာပြီးနောက် ဂါဇာဒေသအုပ်ချုပ်ရေးမှာ ရှုတ်ထွေးနေခဲ့သည်။ အစ္စရေးစစ်တပ်၏ မကြာခဏဝင်ရောက်တိုက်ခိုက်အနိုင်ကျင့်မှုကို ပါလက်စတိုင်းအရဗ်များ ခံစားနေရဆဲဖြစ်သည်။

# အပိုင်း (၁၂)

# ဆော်ဒီအာရေဗျနိုင်ငံ

## နဂျ်ဒ်နယ်မှပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှု

(၁၈) ရာစုအစပိုင်းကာလတွင် ဟေဂျားဇ်ဒေသ၌ ရှိုင်းခ်မုဟမ္မဒ်ဗင်န်အဗ္ဗဒွလ်ဝဟားဗ်အမည်ရ သာသနာ့ပညာရှင်တစ်ဦး ပေါ်ထွန်းခဲ့သည်။ ရှိုင်းခ်ကို အိုယိုင်နာဒေသတွင် ဖွားမြင်ခဲ့ပြီး သာသနာ့ပညာရှင်တစ်ဦးဖြစ်သည့် ဖခင်ဖြစ်သူထံ ပညာသင်ယူဆည်းပူးခဲ့သည်။ ရှိုင်းခ်သည် နေရာဒေသအသီးသီးကို သွားရောက်ခဲ့ပြီးနောက် မွတ်စ်လင်မ်တို့၏ အခြေအနေအရပ်ရပ်တွင် နိမ့်ပါးကျဆင်းနေမှုနှင့် အစ္စလာမ်နှင့်ဆန့်ကျင်သည့် တရားသစ်တီထွင်မှုများ တွင်ကျယ်နေခြင်းကို တွေ့မြင်ခဲ့သည်။

ထို့ကြောင့် ရှိုင်းခ်သည် မွတ်စ်လင်မ်တို့အား စစ်မှန်သောသောင်ဟီးဒ်ဘက်သို့ ဖိတ်ခေါ်ခဲ့ပြီး တရားသစ်တီထွင်မှုများကို စွန့်လွှတ်ရန် တိုက်တွန်းခဲ့သည်။ ထို့နောက်ရှိုင်းခ်သည် ဒရ်အီယာနယ်၏ အုပ်ချုပ်ရေးမှူးဖြစ်သူ မုဟမ္မဒ်ဗင်စအူးဒ်နှင့် ပူးပေါင်းမိပြီး မိမိ၏ ပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှုကို ပိုမိုကျယ်ပြန့်စွာ ဆောင်ရွက်နိုင်ခဲ့သည်။ နှစ်အနည်းငယ်အတွင်း ထိုလှုပ်ရှားမှုသည် စအူးဒ်မျိုးနွယ်၏ အာဏာစက်နှင့်အတူအာရေဗျကျွန်းဆွယ်တွင် ပြန့်နှံ့သွားခဲ့သည်။

## ပထမဆော်ဒီနိုင်ငံခေတ်တွင် ပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှု ပိုမိုကျယ်ပြန့်သွားခြင်း

ဟိဂျ်ရီ (၁၁၇၉) ခုနှစ်၊ ခရစ်နှစ် (၁၇၆၅) ခုနှစ်တွင် ခေါင်းဆောင် မုဟမ္မဒ်ဗင်န်စအူးဒ်ကွယ်လွန်ပြီးနောက် သားဖြစ်သူ အဗ္ဗဒွလ်အဇီးဇ် ခေါင်းဆောင်ဖြစ်လာခဲ့သည်။ အဗ္ဗဒွလ်အဇီးဇ်သည် ဘာသာရေးကိုင်းရှိုင်းပြီး ရှိုင်းခ်မုဟမ္မဒ်ဗင်န်အဗ္ဗဒွလ်ဝဟားဗ်၏ ပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှုကို သဘောကျနှစ်ခြိုက်သူဖြစ်သည်။ အဗ္ဗဒွလ်အဇီးဇ်လက်ထက်တွင် အဟ်စာ့အ်ဒေသကို သိမ်းယူနိုင်ခဲ့ပြီး ပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှုလည်း ပိုမိုကျယ်ပြန့်သွားခဲ့သည်။

ခရစ်နှစ် (၁၈၀၃) ခုနှစ်တွင် ခေါင်းဆောင်အဗ္ဗဒွလ်အဇီးဇ်ကွယ်လွန်ပြီးနောက် သားဖြစ်သူစအူးဒ်ကဗီးရ် ခေါင်းဆောင်ဖြစ်လာခဲ့သည်။ စအူးဒ်ကဗီးရ်လက်ထက်တွင် ဟေဂျားဇ်တစ်နယ်လုံးကို သိမ်းယူနိုင်ခဲ့သည်။ ထို့အပြင် စအူဒီတို့သည် အီရတ်နှင့် ရှာမ်ဒေသကို ထိုးစစ်ဆင်သောအခါ အွစ်မာနီယာအင်ပါယာဘုရင်ကိုယ်တိုင် ထိတ်လန့်လာခဲ့ရသည်။ အီဂျစ်နှင့်ရှာမ်ဒေသမှ ဟာဂျီများသည် ဗုံတီးခြင်းနှင့် တူရိယာများတီးမှုတ်ခွင့်မရှိသည့်အမိန့်ကို ချိုးဖောက်သောကြောင့် စအူဒီအာဏာပိုင်တို့က ဟဂ်ျပြုခွင့်မပေးဘဲ ပြန်လွှတ်ခဲ့သည်။ ထိုအခါ အွစ်မာနီယာဘုရင်က အီဂျစ်ပြည်နယ်အုပ်ချုပ်ရေးမှူး မုဟမ္မဒ်အားဟေဂျားဇ်နယ်ကို ထိုးစစ်ဆင်ပြီး စအူဒီအာဏာစက်ကို နှိမ်နင်းရန် ညွှန်ကြားခဲ့သည်။ ထို့ကြောင့် ခရစ်နှစ် (၁၈၁၁ - ၁၈၁၈) ခုနှစ်အတွင်း အီဂျစ်စစ်တပ်က ဟေဂျားဇ်နယ်ကို စအူဒီများလက်မှ ပြန်လည်သိမ်းပိုက်ခဲ့သည်။ ခေါင်းဆောင်စအူးဒ်ကဗီးရ်ကို ဆက်ခံသောဘုရင်အဗ္ဗဒွလ္လာဟ်လည်း သေဒဏ်ပေးခံခဲ့ရသည်။

အီဂျစ်စစ်တပ်သည် ဟေဂျားဇ်နယ်ကို ပြန်လည်သိမ်းယူပြီး စအူဒီဘုရင်ကို သေဒဏ်ပေးနိုင်ခဲ့သော်လည်း အီဂျစ်စစ်တပ် ဟေဂျားဇ်

နယ်မှ ပြန်လည်ဆုတ်ခွာသည့် ခရစ်နှစ် (၁၈၄၀) ခုနှစ်တွင် စအူဒီတို့သည် မိမိတို့၏ အုပ်ချုပ်မှုအာဏာကို အသစ်တဖန် ထူထောင်နိုင်ခဲ့သည်။ ရှိုင်းခ်မုဟမ္မဒ်ဗင်န်အဗ္ဗဒွလ်ဝဟားဗ် ဦးဆောင်လှုပ်ရှားခဲ့သည့် ပြုပြင်ပြောင်းလဲရေးလည်း ပြန်လည်အသက်ဝင်လာခဲ့သည်။

## ရှိုင်းခ်မုဟမ္မဒ်ဗင်န်အဗ္ဗဒွလ်ဝဟားဗ်၏ ပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှု အကျိုးရလဒ်များ

- ဤလှုပ်ရှားမှုသည် ခေတ်သစ်အစ္စလာမ့်ရေးရာ ပြုပြင်ပြောင်းလဲရေးလှုပ်ရှားမှုများ၏ အရင်းအမြစ် ဖြစ်ခဲ့သည်။
- မွတ်စ်လင်မ်တို့အတွင်း ပြန့်နှံ့အမြစ်တွယ်နေသော တရားသစ်တီထွင်မှုများစွာကို ပပျောက်စေခဲ့သည်။
- အစ္စလာမ့်နိုင်ငံတစ်ခုတည်ထောင်ရန်အတွက် အခြေခံအုတ်မြစ်ကောင်းများကို ချမှတ်ပေးနိုင်ခဲ့သည်။
- ဆွေးနွေးပွဲများစွာ ပေါ်ပေါက်လာသောကြောင့် လိုအပ်နေသော အတွေးအခေါ်နိုးကြားမှုများ ဖြစ်ပေါ်လာခဲ့သည်။
- အာရေဗျကျွန်းဆွယ်တွင် အစ္စလာမ့်ဥပဒေများအသက်ဝင်ပြီး တည်ငြိမ်အေးချမ်းခဲ့သည်။
-

## ဒုတိယဆော်ဒီနိုင်ငံတည်ထောင်ခြင်း

အီဂျစ်စစ်တပ် ဟေဂျားဇ်နယ်ကို သိမ်းပိုက်ခဲ့ပြီးနောက် ဟေဂျားဇ်နယ်သည် တည်ငြိမ်အေးချမ်းမှု ပျက်ပြားပြီး ဖရိုဖရဲဖြစ်နေခဲ့သည်။ အီဂျစ်တွင် နယ်နှင်ဒဏ်ပေးခံထားရသည့် စအူဒီခေါင်းဆောင်တစ်ဦးဖြစ်သည့် ဖိုင်ဆွလ်သည် ထွက်ပြေးလွတ်မြောက်ပြီး ဟေဂျားဇ်နယ်သို့ ပြန်လည်ရောက်ရှိလာခဲ့သည်။ ပြည်သူအများ၏ထောက်ခံမှုကို ပြန်

လည်းရရှိပြီး ခရစ်နှစ် (၁၈၄၃) ခုနှစ်တွင် နဂျ်ဒ်နယ်ကို ပြန်လည်သိမ်းယူနိုင်ခဲ့သည်။ အာရေဗျကျွန်းဆွယ်အနှံ့ ပြန်လည်အာဏာဖြန့်ကျက်နိုင်ခဲ့ပြီး ဘုရင်ဖိုင်ဆွလ်အုပ်ချုပ်ခဲ့သည့် (၂၂) နှစ်တာကာလသည် တည်ငြိမ်အေးချမ်းခဲ့သည်။ ခရစ်နှစ် (၁၈၆၅) ခုနှစ်တွင် ဘုရင်ဖိုင်ဆွလ်ကွယ်လွန်ပြီးနောက် သားနှစ်ဦးဖြစ်သည့် အဗ္ဗဒွလ္လာဟ်နှင့် စအူးဒ်တို့အကြား အာဏာလွန်ဆွဲမှုဖြစ်ပြီး အခြေအနေများ ပြန်လည်ရှုပ်ထွေးသွားခဲ့သည်။ ထိုမတည်မငြိမ်ဖြစ်မှုကို အွစ်မာနီယာတို့က အခွင့်ကောင်းယူပြီး အဟ်စာ့အ်နယ်ကို ပြန်လည်သိမ်းပိုက်ခဲ့သည်။

ထိုကဲ့သို့ စအူးဒ်မျိုးနွယ်များအကြား အကွဲအပြဲဖြစ်နေချိန် အွစ်မာနီယာတို့၏ ထောက်ပံ့မှုရရှိထားသော ဟာအိလ်နယ်၏ခေါင်းဆောင်တစ်ဦးဖြစ်သူ မုဟမ္မဒ်ဗင်န်အဗ္ဗဒွလ္လာဟ်ရရှီးဒ်သည် မြို့တော် ရေယားဒ်ကိုသိမ်းပိုက်ပြီး ဘုရင်ဖြစ်လာခဲ့သည်။ ထိုအခါအာဏာလက်မဲ့ဖြစ်သွားသည့် စအူဒီခေါင်းဆောင် အဗ္ဗဒွရ်ရဟ်မားန်သည် မိသားစုနှင့်အတူကူဝိတ်နိုင်ငံသို့ ပြောင်းရွှေ့သွားခဲ့သည်။

## တတိယဆော်ဒီနိုင်ငံတည်ထောင်ခြင်း

ကူဝိတ်နိုင်ငံသို့ စအူဒီမိသားစုပြောင်းရွှေ့သွားချိန်တွင် ခေါင်းဆောင် အဗ္ဗဒွရ်ရဟ်မားန်၏သားဖြစ်သူ အဗ္ဗဒွလ်အဇီးဇ်သည် အသက် (၁၂) နှစ်အရွယ်သာရှိသေးသည်။ ခက်ခဲသောအခြေအနေများကို ကျော်ဖြတ်ခဲ့ရသော အဗ္ဗဒွလ်အဇီးဇ်သည် ရဲရင့်ထက်မြက်သော ပုဂ္ဂိုလ်တစ်ဦးဖြစ်လာခဲ့သည်။ အရွယ်ရောက်သောအခါ အဗ္ဗဒွလ်အဇီးဇ်သည် စအူဒီမျိုးနွယ်အတွက် အာဏာပြန်လည်ရယူရန် ဆုံးဖြတ်ခဲ့သည်။

အဗ္ဗဒွလ်အဇီးဇ်သည် စအူဒီမျိုးနွယ်အတွက် ဩဇာအာဏာပြန်လည်ရယူရန် ဆုံးဖြတ်ပြီးနောက် အလွန်အန္တရာယ်များသော ကြိုး

ပမ်းဆောင်ရွက်ချက်များကို လုပ်ဆောင်ရန် အစီအစဉ်ချခဲ့သည်။ ခရစ်နှစ် (၁၉၀၁) ခုနှစ်တွင် လူ (၄၀) ခန့်ဖြင့် ကူဝိတ်နိုင်ငံမှ ရေယားဒ်မြို့တော်သို့ ဦးတည်ထွက်ခွာလာခဲ့သည်။ ရေယားဒ်မြို့အနီးရောက်သောအခါ ညအချိန်စီးနင်းဝင်ရောက်ရန်အတွက် ပြင်ဆင်ခဲ့သည်။ ခရစ်နှစ် (၁၉၀၂) ခုနှစ်၊ ဇန်နဝါရီလတွင် ညအချိန်၌ အဗ္ဗဒွလ်အဇီးဇ်သည် နောက်လိုက်ဆယ်ဦးခန့်နှင့်အတူ ရေယားဒ်မြို့ထဲသို့ ဝင်ရောက်ပြီး မြို့တော်ဝန်ကို လုပ်ကြံသတ်ဖြတ်နိုင်ခဲ့သည်။ မြို့သူမြို့သားများကလည်း အဗ္ဗဒွလ်အဇီးဇ်ထံ သစ္စာခံခဲ့သောကြောင့် တတိယဆော်ဒီနိုင်ငံတည်ထောင်မည့် ပထမဦးဆုံးခြေလှမ်းကို အောင်မြင်စွာလှမ်းနိုင်ခဲ့သည်။

ထို့နောက်နဂျ်နယ်တစ်ခုလုံးကို သိမ်းပိုက်နိုင်ခဲ့ပြီး ဘုရင်ရရှီးဒ်ကို ကူညီရန်ရောက်လာသည့် အွစ်မာနီယာစစ်တပ်ကိုပါ အနိုင်ရခဲ့သည်။ ဘုရင်ရရှီးဒ်၏စစ်တပ်ကို အနိုင်တိုက်ခိုက်နိုင်ခဲ့ပြီးနောက် ခရစ်နှစ် (၁၉၁၃) ခုနှစ်တွင် အဟ်စာ့အ်နယ်နှင့် ခရစ်နှစ် (၁၉၂၁) ခုနှစ်တွင် ဟာအိလ်နယ်တို့ကိုပါ သိမ်းယူနိုင်ခဲ့သည်။ ထို့နောက် ခရစ်နှစ် (၁၉၂၅) ခုနှစ်တွင် ဟေဂျားဇ်နယ်ကို ထပ်မံသိမ်းပိုက်နိုင်ခဲ့ပြီး ကျန်ရှိနေသော အစီးရ်နယ်ကိုပါ သိမ်းယူနိုင်သည့် ခရစ်နှစ် (၁၉၃၂) ခုနှစ်တွင် ဆော်ဒီအာရေဗျနိုင်ငံကို တည်ထောင်ခဲ့သည်။

# အပိုင်း (၁၃)

# ဥရောပတိုက်အပေါ် အစ္စလာမ့်ယဉ်ကျေးမှု၏ ကျေးဇူးများ

အာရှတိုက်ရှိဒေသအများစု၊ မြေထဲပင်လယ်ရှိကျွန်းများ၊ အာဖရိကတိုက်မြောက်ပိုင်းနှင့် စပိန်ဒေသတို့တွင် ခေတ်မီတိုးတက်သော အစ္စလာမ့်ယဉ်ကျေးမှု ပေါ်ထွန်းခဲ့သည်။ ထိုယဉ်ကျေးမှုကြောင့် ကမ္ဘာ့နေရာဒေသများစွာတွင် ပြောင်းလဲတိုးတက်မှုများဖြစ်ပေါ်လာခဲ့သည်။ (၈) ရာစုအစပိုင်းတွင် စပိန်ဒေသကို အရဗ်မွတ်စ်လင်မ်တို့ အောင်နိုင်ပြီးနောက် အသိပညာနှင့် အတွေးအခေါ်ရင်းမြစ်ကြီးတစ်ခုကိုပါ သယ်ဆောင်လာခဲ့သည်။ ထိုအသိပညာရင်းမြစ်ကြီးသည် စပိန်လမ်းကြောင်းမှတဆင့် ဥရောပသို့စိမ့်ဝင်ခဲ့ပြီး ဥရောပတွင် အသိဉာဏ်နှင့် အတွေးအခေါ်နိုးကြားမှု ဖြစ်ပေါ်လာခဲ့သည်။ ဥရောပတိုက်သားတို့သည် မွတ်စ်လင်မ်ပညာရှင်ကြီးများထံ ပညာသင်ယူကြပြီး သူတို့၏ ကျမ်းစာအုပ်များကို ဥရောပဘာသာစကားအသီးသီးသို့ ပြန်ဆိုခဲ့ကြသည်။

စပိန်သို့ အရဗ်မွတ်စ်လင်မ်တို့ယူဆောင်လာခဲ့သော မြို့ပြလူနေမှုစနစ်နှင့် စာပေအသိပညာ ယဉ်ကျေးမှုသည် ဥရောပတိုက်တွင် အသိပညာနိုးကြားရေးခေတ်စတင်ရန် များစွာလှုံ့ဆော်ပေးခဲ့သည်။ စပိန်မွတ်စ်လင်မ်တို့ တည်ထောင်ခဲ့သော ဆေးပညာရပ်ဆိုင်ရာဌာနများ၊ ဥပဒေပြဋ္ဌာန်းရေးဆိုင်ရာဌာနများ၊ အတွေးအခေါ်နှင့် သိပ္ပံပညာရပ်ဆိုင်ရာဌာနများသို့ ဥရောပအနှံ့မှကျောင်းသားများ လာရောက်ပညာသင်ယူခဲ့ကြသည်။ သင်္ချာ၊ နက္ခတ္တဗေဒ၊ ရူပဗေဒ၊ ပထဝီဝင်စသည့်

ပညာရပ်များတွင် များစွာသောအရဗီစကားလုံးများ ပါဝင်နေခြင်းကို ကြည့်ခြင်းအားဖြင့် ထိုပညာရပ်များတွင် အရဗ်မွတ်စ်လင်မ်တို့၏ အခန်းကဏ္ဍမည်မျှရှိခဲ့သည်ကို ခန့်မှန်းနိုင်သည်။

ထို့အတူ မွတ်စ်လင်မ်တို့နှစ်ပေါင်း (၂၀၀) ကျော် အုပ်စိုးခဲ့သော စစ္စလီကျွန်းမှတဆင့် အစ္စလာမ့်ယဉ်ကျေးမှုလှိုင်းသည် ဥရောပကို ဝင်ရောက်ရိုက်ခတ်ခဲ့သည်။ နှစ်ပေါင်း (၃၀၀) နီးပါးကြာရှည်ခဲ့သော ခရူးဆိတ်စစ်ပွဲကာလတွင် ဥရောပသားများသည် ဖွံ့ဖြိုးတိုးတက်သော အရှေ့တိုင်းအစ္စလာမ့်ကမ္ဘာနှင့် ထိတွေ့မိပြီး အသိအမြင်နိုးကြားမှုများ ဖြစ်လာခဲ့သည်။

**အင်မ်ရားန် (အလ်ကောင်စရီ)**

# ကိုးကားကျမ်းများ

- التاريخ الإسلامي للدكتور إبراهيم الشريقي

- البداية والنهاية في التاريخ لعماد الدين بن كثير القرشي

- تاريخ الأمم والملوك للطبري

- الكامل في التاريخ لابن أثير